စာအုပ်ထဲတွင်ပါရှိသော ကြိုးစလေးအား
၎င်းညှပ်ထားသော စာမျက်နှာတွင်သာ
ထားပေးပါရန် မေတ္တာရပ်ခံပါသည်။

စာရေးသူ

(၁)

ဆရာကြီးဦးအောင်ကိုသည် သူ၏ ရုံးခန်းထဲသို့ လှမ်းဝင်လိုက်သည်။ သူဝင်လာတာမြင်တော့ ရုံးခန်းရှေ့က စာရေးမ စန္ဒာက မတ်တပ်ရပ်ပြီး…

"ဆရာကြီး"

"ဟေ"

"ဖိတ်စာတစ်စောင် ရောက်နေလို့ ဆရာ့စားပွဲပေါ်တင်ထားလိုက်တယ်"

"အေး…ကောင်းပါပြီ"

ရုံးခန်းတံခါးကို ဖွင့်ဝင်လိုက်သည်။

ဝင်လာသောအငွေ့တွေကြောင့် အခန်းထဲမှာ တော်တော့်ကို နေမှန်းသိရသည်။ အဲယားကွန်းဖွင့်လိုက်သည်။

တိုက်ပုံကို နံရံမှာချိတ်လိုက်ရင်း စားပွဲပေါ်ကို တစ်ချက်ငဲ့ကြည့်လိုက်သည်။

လုပ်လက်စဖိုင်တချို့ကို တွေ့ရသည်။

ဖိုင်များပေါ်တွင် အဖြူရောင်စာအိတ်လေးတစ်ခု . . .။

ခံ့ပေါ်ဝင်ထိုင်ရင်း စာအုပ်ကို ယူကြည့်လိုက်သည်။

စာအိတ်ပေါ်က စာကိုကြည့်ခြင်းအားဖြင့် နှစ်စဉ်ရရှိနေကျ ဖိတ်စာဖြစ်ကြောင်း သိရှိရသည်။

ရင်လည်းခုန်သွားသည်။

စာအိတ်ကို ဖွင့်ကြည့်လိုက်သည်။






## လူငယ်ပွဲတော်သို့ ဖိတ်ကြားလွှာ

နှစ်စဉ်ကျင်းပနေသော ပွဲတော်တစ်ခုဖြစ်သည့် လူငယ်ပွဲတော်သို့ တက်ရောက်ရန်အတွက် လူကြီးမင်းအား… တဏှာသိုက်မှ လူငယ်ယောက်ျားလေး တစ်ဦးနှင့် မိန်းကလေးတစ်ဦး ကို ဖိတ်ခေါ်အပ်ပါသည်။

တက်ရောက်မည့်ယောက်ျားလေးနှင့် မိန်းကလေး၏ အရည်အချင်းများသည် မနှစ်ကပေးပို့ခဲ့သော အရည်အချင်းများအတိုင်း ဖြစ်ပါသည်။

တက်ရောက်နိုင်ရန်အတွက် ဖိတ်ကြားအပ်ပါသည်။

ကျင်းပရေးအဖွဲ့

ဆရာကြီး ဦးအောင်ကိုသည် ဖိတ်စာကိုဖတ်ကြည့်ပြီးနောက် တစ်ချက် ပြုံးလိုက်သည်။

သူတပည့်တွေအားလုံး ထိုပွဲတော်ကြောင့် ပျော်ရွှင်ကြလိမ့် ဦးမည်ဟု တွေးမိသောကြောင့်ဖြစ်သည်။

ခုံပေါ်တွင်ရှိသော လူခေါ်ခေါင်းလောင်းကို နှိပ်လိုက်သည်။ စာရေးမစန္ဒာက တံခါးလေးဖွင့်ပြီး ဝင်လာသည်။

"ဘာခိုင်းစရာရှိလို့လဲ ဆရာ"

"ပါမောက္ခတွေအားလုံးကို အစည်းအဝေးရှိတယ်လို့ အကြောင်းကြားပေးပါ"



(၂)

မကျွာအသီးသီးရှိ ကြော်ငြာသင်ပုန်းများရှေ့တွင် ကျောင်းသားကျောင်းသူများ တိုးဝှေ့ကြည့်ရှုနေကြသည်။

အလုအယက်ကြည့်နေခြင်းအားဖြင့် စိတ်ဝင်စားစရာကောင်းသည့် ကြေညာချက်မှန်း သိသာရသည်။

"ဘာတွေရေးထားတာလဲ"

လူတစ်ယောက်က တိုးဝှေ့နေသော သူတစ်ယောက်ကို မေးလိုက်သည်။

"လှူငယ်ပွဲတော်အတွက် ကြေညာထားတာ"

မေးသောသူမှာ မျက်လုံးတောက်သွားပြီး…

"ဟာ…ငါလည်း ကြည့်မယ်၊ ငါလည်း နောက်ဆုံးနှစ်ကျောင်းသားပဲ"

ဟုဆိုပြီး လူအုပ်ကြီးထဲသို့ တိုးဝှေ့ဝင်ကြည့်လေ၏။

ဤသို့ဖြင့် ကျောင်းတွင် ထိုသတင်းသည် စိတ်ဝင်စားစရာ အကောင်းဆုံးသတင်း ဖြစ်သွားပြီး နောက်ဆုံးနှစ်ကျောင်းသား၊ ကျောင်းသူများကြားတွင်လည်း စိတ်လှုပ်ရှားမှုများ ဖြစ်ပေါ်သွားကြသည်။



(၃)

"အဲဒီပွဲတော်ကို ယောကျ်ားလေးဘက်က ငါပဲသွားရမှာပါကွ"

ဓာတုဗေဒကင်းဖြစ်သော ကျော်အောင်က သူ့သူငယ်ချင်းများအား ကင်းတင်းတွင် အာပေါင်အာရင်းသန်သန်ဖြင့် ပြောနေသည်။

ဖိုးထောင်ကလည်း

"ဟုတ်တယ် မင်းပဲရွေးခံရမှာ၊ ဘာဖြစ်လို့လဲဆို မင်းက ရုပ်လည်းရှိတယ်၊ အကြောင်းအရာ မျိုးစုံကိုလည်း တော်တော်များများသိတယ်၊ ပြီးတော့ ဘာသာစကား နောက်တစ်မျိုးလည်း ပြောတတ်သေးတယ်လေ"

"အဟင်း...ဟုတ်လိုက်လေကွာ"

ရန်လင်းနောင်က...

"ဒါပေမယ့် ဆရာကြီးက ရွေးမယ့်လူတွေကို ဘယ်လိုစိစစ်ဦးမလဲမသိဘူး"

"အေးဆေးပါကွာ၊ ငါအကုန် ကျော်ဖြတ်နိုင်ပါတယ်"

"ဟုတ်တယ်၊ ကျော်အောင်က ကျော်ဖြတ်နိုင်တယ်"

ဟု အားလုံးက တဝါးဝါးနဲ့ ထောက်ခံကြသည်။

သူတို့ဘေးနားမှာ ထိုင်နေသော လူငယ်တစ်ဦးက သူတို့ကို တစ်ချက်လှည့်ကြည့်သည်။

ပြီး…ခေါင်းရမ်းလိုက်သည်။

အခုတလော ဘယ်သွားသွား 'လူငယ်ပွဲတော်အကြောင်းပဲ ကြားနေရသည်။ လူတိုင်းစိတ်ဝင်စားနေသော အကြောင်းအရာဖြစ်သည်။

သူရော စိတ်မဝင်စားဘူးလား။

သူလည်း စိတ်ဝင်စားပါသည်။ သို့သော် သူ့တွင် ထိုပွဲကို သွားဖို့အတွက် အရည်အချင်းမရှိဟု ခံစားနေရသည်။

ဘယ်သူမှလည်း သူ့ကိုစိတ်မဝင်စားကြ…။ ကျောင်းမှာ ကလည်း အညံ့စာရင်းဝင်ဖြစ်သောကြောင့် ဘယ်သူက သူ့ကိုရွေးချယ် မှာလဲ…။

သူ သက်ပြင်းချလိုက်သည်။

အနောက်ဝိုင်းက ပြောနေကြသော သူများ၏စကားကို မကြား ချင်တော့သောကြောင့် ဖတ်လက်စစာအုပ်ကို ပိတ်လိုက်သည်။

ထို့နောက် သောက်လက်စ လက်ဖက်ရည်ခွက်အောက်မှာ ပိုက်ဆံထိုးညှပ်လိုက်ပြီး ကင်တင်းထဲမှ ထွက်ခဲ့လိုက်သည်။

ဖိုသီဖတ်သီပုံစံနှင့် ထွက်လာသောသူ့ကို လိုက်ကြည့်မယ့်သူတစ်ယောက်မှ မရှိချေ…။

စိတ်ပျက်လက်ပျက်နှင့်ပင် သူကိုင်လာသော စာအုပ်ကို လွယ်အိတ်ထဲသို့ အတင်းထိုးထည့်လိုက်သည်။

သူ၏နာမည်မှာ 'ကြီးဖေ' ဖြစ်သည်။



ပထမအဆင့်

- မေဂျာအသီးသီးရှိ နောက်ဆုံးနှစ်ကျောင်းသားများထဲမှ ယောကျာ်းလေးတစ်ဦးနှင့် မိန်းကလေးတစ်ဦးအား သက်ဆိုင်ရာ မေဂျာပါမောက္ခ၏ စစ်ဆေးမှုဖြင့် ရွေးချယ်ရန်၊

ဒုတိယအဆင့်

- မေဂျာအသီးသီး၏ ကိုယ်စားပြုအတွဲများ ရလာပါက တက္ကသိုလ်၏ ကိုယ်စားပြုအတွဲကို ပါမောက္ခချုပ်၏ စစ်ဆေးမှုဖြင့် ရွေးချယ်ရန်၊

တတိယအဆင့်

- ရွေးချယ်ခံရသော စုံတွဲသည် လှူငယ်ပွဲတော်သို့ သွားရောက်ရမည်။

# လှူငယ်ပွဲတော်

လှူငယ်ပွဲတော် တက်ရောက်ခွင့်ရသော ယောကျ်ားလေးနှင့် မိန်းကလေးစုံတွဲများသည် တိုးတက်ရာလမ်းကြောင်း အခွင့်အရေးများ ရရှိကြသလို ငွေကြေးအပြင် နိုင်ငံခြားကျောင်းများအား ထောက်ပံ့ကြေး အပြည့်ဖြင့် တက်ရောက်ခွင့်ရကြသည်။

လူငယ်တိုင်း သွားချင်ကြသည့် ပွဲတော်တစ်ခုဖြစ်သည်။

စွမ်းသပ်စစ်ဆေးမှုများမှာလည်း လွန်စွာခက်ခဲသောကြောင့် လူငယ်များအနေနှင့် ဒုက္ခရောက်ကြသည်။

သို့သော် လူငယ်တိုင်း ကြိုးစားကြသည်။

အခုလည်း လူငယ်ပွဲတော် တက်ရောက်ခွင့် ရွေးချယ်ပွဲကြောင့်…တက္ကသိုလ်လေးတွင် လှုပ်လှုပ်ရှားရှားဖြစ်နေကြသည်။

လူတိုင်း စိတ်ဝင်စားကြသည်။

ဤသို့ဖြင့်…

(၄)

တာတုဗေဒမေဂျာ၏ နောက်ဆုံးနှစ်အတန်းလေးသည် လွန်စွာ တိတ်ဆိတ်နေသည်။

အတန်းထဲတွင်လည်း ကျောင်းသား၊ ကျောင်းသူများအပြည့် ဖြစ်သည်။ မည်သူက မည်သည့်စကားမှ မဆိုကြ…။

တချို့ကသာ အချင်းချင်း တီးတိုးကပ်ပြောနေကြသည်။ ထိုစဉ် အားလုံး၏ အမူအရာများ လှုပ်လှုပ်ရှားရှားဖြစ်သွားသည်။

အခန်းပေါက်ဝသို့ အားလုံးပြိုင်တူကြည့်မိကြသည်။

သူတို့၏ ပါမောက္ခ ဆရာဦးတင်လတ် ဝင်လာသောကြောင့် ဖြစ်သည်။ အတန်းသားအားလုံး အငြိမ်ဖြစ်သွားကြသည်။

ဆရာကြီးက ဒီနေ့အတန်းချိန်တွင် လူငယ်ပွဲတော်နှင့် ပတ်သက်သော အကြောင်းအချို့ကို ပြောလိမ့်မည်ဟု အားလုံးကထင်ထား ကြသည်။ ထို့ကြောင့် ဒီနေ့အတန်းချိန်တွင် သာမန်နေ့တွေထက်

ကျောင်းသား၊ ကျောင်းသူများအားလုံး ရောက်နေကြခြင်းဖြစ်သည်။

ထုံးစံအတိုင်းဆိုလျှင် 'လှူငယ်ပွဲတော်'သတင်းထွက်ပြီး စ်ပတ်အတွင်း ထိုအကြောင်းအရာနှင့် ပတ်သက်သော စည်းကမ်း ချို့ပုံစံများကို ပြောပြလေ့ရှိသည်။

ဆရာကြီးသည် သူကိုင်လာသော စာအုပ်နှင့်မြေဖြူဗူးကို ရင်ချသည်။

အတန်းသားအားလုံးက ဆရာကြီးကိုသာ ငေးနေသည်။ ရာကြီးက ကျောင်းသားအားလုံးကို တစ်ချက်ဝေ့ကြည့်သည်။

"ပြီးခဲ့တဲ့အပတ်က သင်ထားတဲ့ သင်ခန်းစာကို ဆက်သင် ယ်"

သက်ပြင်းချသံအချို့ ထွက်ပေါ်လာသည်။ စာအုပ်လှန်သံ၊ အုပ်ထုတ်သံများဖြင့် ခဏတာဆူညံသွားသည်။

ဆရာကြီးက ပြီးခဲ့တဲ့အပတ်က သင်ခန်းစာကို ဆက်သင် ည်။ အချိန်အတော်ကြာသွားသည်။

"ဆရာကြီးက ဟိုအကြောင်းနဲ့ပတ်သက်ပြီး ဘာမှလည်း ပြောသေးဘူး"

တစ်ယောက်က ကျန်တစ်ယောက်ကို တိုးတိုးပြောသည်။

"ပြောမှာပေါ့၊ စာသင်ပြီးရင် ပြောမယ်ထင်တယ်"

"အင်း…ငါက နားထောင်ချင်ပြီ"

"ဘာကိုလဲ"

"သြော်…စည်းကမ်းချက်တွေကိုပေါ့"

"အေး…ပြီးရင် ပြောမှာပေါ့"

ဤသို့ဖြင့် စာဆက်သင်ကြသည်။

ဒီနေ့မှပဲ ဆရာကြီးက စာသင်ပြတာ တော်တော်အားရနေပုံ ရသည်။ စာသင်ချိန်စေ့သွားပြီဖြစ်သည်။

ဆရာကြီးက မြေဖြူများကို ဗူးလေးထဲပြန်ထည့်သည်။

အားလုံး၏မျက်ဝန်းများက ဆရာကြီးဆီကိုပဲ ရောက်နေကြသည်။ ယူလာသော စာအုပ်များကို ကောက်ကိုင်လိုက်သည်။

"ကဲ…ဒီနေ့တော့ စာသင်တာ ဒီလောက်ပါပဲ"

ဟု ဆိုပြီး အတန်းထဲမှ ထွက်ရန်ဟန်ပြင်သည်။

ထိုစဉ် မနေနိုင်သော ကျောင်းသားတစ်ယောက်က

"ဆရာကြီး"

"ဟေ"

"ဟို…လှူငယ်ပွဲတော်အကြောင်းလေး မပြောတော့ဘူးလား"

ဆရာကြီးက မျက်မှန်လေးကို ပင့်လိုက်သည်။ တပည့်အားလုံး နားထောင်နေကြသည်ကို ကြည့်လိုက်ပြီး…

"လှူငယ်ပွဲတော်အတွက် ဆရာတို့မဂ္ဂဇာက ထူးထူးခြားခြား စည်းကမ်းချက်တွေ ထုတ်ထားတာမရှိပါဘူး၊ ဒါပေမယ့်…"

ဆရာကြီး စကားပြောသံ ခဏရပ်သွားသည်။

"ကြိုပြီး သတိမပေးတဲ့ အဖြစ်အပျက်အချို့နဲ့ ရှေးချယ်ဖို့ ဆရာ စဉ်းစားထားတယ်"

ဟုပြောပြီး အခန်းထဲမှ ထွက်ခွာသွားလေသည်။

အားလုံးမှာ နားမလည်သည့်မျက်ဝန်းများဖြင့် ကျန်ခဲ့သည်။



(၅)

ဆရာကြီး၏ စကားကို တစ်ယောက်တစ်ပေါက် ငြင်းခုန်ရင်းနှင့်ပင် စာသင်ခန်းထဲတွင် လူရှင်းသွားသည်။

ကြီးဖေသည် ခုံပေါ်တွင် ရှိနေသောစာအုပ်များကို လွယ်အိတ်ထဲသို့ ထည့်လိုက်သည်။

အတန်းထဲတွင် သူနှင့်အတူ ကောင်မလေးနှစ်ယောက်နှင့် ကောင်လေးတစ်ယောက်ပဲ ရှိနေတော့သည်။

သူတို့ကလည်း ဆရာကြီးစကားကို စဉ်းစားငြင်းခုန်နေကြသည်။ သူ သက်ပြင်းချလိုက်သည်။

သူလည်း ဆရာကြီးပြောသွားသည့် စကားကို နားမလည်ပါ။ စဉ်းစားလေ ဉာဏ်မမီလေဖြစ်သောကြောင့် မစဉ်းစားဘဲနေလိုက်သည်။

ဘလက်ဘုတ်ကို တစ်ချက်ကြည့်လိုက်သည်။ ဆရာကြီး ဦးတင်လတ်သင်သွားသော စာများကိုတွေ့ရသည်။ ဘလက်ဘုတ်ဆီကို လျှောက်သွားလိုက်သည်။ ကောင်မလေးနှစ်ယောက်က လှည့်ကြည့်သည်။ ပြီး…မထူးဆန်းသလိုဖြင့် ပြန်လှည့်သွားကာ စကားပြန်ပြောနေကြသည်။

ဘလက်ဘုတ်ရှိစာများကို တစ်ခုချင်းစီ လိုက်ဖျက်လိုက်သည်။ နောက်ဝင်မည့် ဆရာအချိန်တွင် အသင့်ရေးနိုင်အောင်ဖြစ်သည်။

ဘလက်ဘုတ်ရှိစာများကို ဖျက်နေရင်းပင် စာသားများကို လိုက်ဆိုနေမိသည်။

"ကြီးဖေ"

အတန်းထဲတွင်ရှိနေသော ကောင်လေးက သူ့ကိုလှမ်းခေါ်သည်။

"ပြောလေ"

"မင်း…ဆရာကြီးပြောသွားတဲ့ စကားကို နားလည်လား"

"ဟင့်အင်း"

ကောင်မလေးတစ်ယောက်က ဝင်ပြောသည်။

"ဟဲ့…သူ့သွားမမေးနဲ့လေ၊ နဂိုကတည်းကမှ လည်နေတာ၊ ပိုလည်သွားဦးမယ်"

အားလုံး ဝိုင်းရယ်လိုက်သည်။

သူလည်း သူတို့နဲ့အတူ လိုက်ရယ်လိုက်ရင်း လွယ်အိတ်လေး ကိုင်ကာ အတန်းထဲမှ ထွက်လာခဲ့သည်။



နောက်တစ်နေ့တွင် သူတို့မေရွာ၌
သတင်းလေးတစ်ခု ထွက်ပေါ်လာသည်။

လှူငယ်ပွဲတော်အတွက်
လှူလေးယောက် စကာတင်ရွေးချယ်မည်ဆိုသည့်
သတင်းဖြစ်သည်။

ယောက်ျားလေးနှစ်ယောက်
မိန်းကလေးနှစ်ယောက်ဖြစ်သည်။

သူတို့ကို စကာတင် ဘယ်လိုရွေးမလဲ?
ထိုကိစ္စက
သူတို့မေရွာလေးတွင် စိတ်ဝင်စားစရာကောင်းလာ
သည်။

(၆)

ထုံးစံအတိုင်း မေဂျာ၏ ကော်ဖြာသင်ပုန်းရှေ့တွင် လူအများ စုပြုံနေသည်။ တစ်ယောက်တစ်ခွန်း ပြောသံများဖြင့်လည်း ဆူညံနေ သည်။

“ဟာ…ဘာအဓိပ္ပာယ်ကြီးလဲဟ”

ကြီးမေ ကော်ဖြာသင်ပုန်းရှေ့နား ဖြတ်သွားသောအခါတွင် လူများ၏ ငြင်းခုန်မှုမှာ ပိုမိုအရှိန်ရနေပြီဖြစ်သည်။

သူ စိတ်ဝင်စားသွားသည်။ ထို့ကြောင့် လူအုပ်နားသို့ကပ် သွားပြီး အတန်းဖော်တစ်ယောက်ကို မေးလိုက်သည်။

“ဘာတွေ ဖြစ်နေတာလဲ”

“ဟာ…ကြီးမေ၊ ဒီမှာလေ လူငယ်ပွဲတော်အတွက် ကြေညာ ထားတာ”

သူလွယ်အိတ်ကို ပင့်တင်လိုက်သည်။

လူအုပ်ကြီးကိုကျော်၍ ကြော်ငြာသင်ပုန်းကို ကြည့်ရန်ဖြစ်သည်။ မမြင်ရဘူး ဖြစ်နေသည်။

"ကြည့်မနေနဲ့ ကြီးဖေ၊ မြင်ရမှာမဟုတ်ဘူး၊ ငါပြောပြမယ်"

"အေး…ပေပဲဦးကွာ၊ မပါနိုင်မှန်းသိပေမယ့် စိတ်ဝင်စားလို့ပါ"

အတန်းဖော်သူငယ်ချင်းက သူ့မှတ်စုစာအုပ်လေးကို ထုတ်လိုက်သည်။ ပြီးနောက်…

"ငါတို့မေဂျာက လူလေးယောက် စကာတင် အရင်ရွေးမယ်ဆိုတာ သိပြီးသွားပြီနော်"

"အေး…အဲဒါတော့ ငါသိပြီးပြီ"

"ဒါပေမယ့် အဲဒီလေးယောက်ကို ဆရာကြီးက ဘယ်လိုရွေးမယ်ဆိုတာ ဘယ်သူမှ ခန့်မှန်းလို့မရဘူးဖြစ်နေတယ်"

"အင်း…ဟုတ်ပါပြီ"

"ဒီနေ့ ကြော်ငြာသင်ပုန်းမှာ ကီစွတစ်ခု ကပ်ထားတယ်"

"ဘာ…ဘာကပ်ထားတာလဲ"

"နေဦး ငါရွတ်ပြမယ်"

ဟုဆိုပြီး သေချာရွတ်ပြသည်။

"လာမည့် (၃) ရက်နေ့၌ ဖြစ်ပေါ်မည့် မေဂျာအတွင်း(သို့) မေဂျာကလူနှင့်ပတ်သက်သည့် (မည်သည့်ကီစွ)ကိုမဆို ဖြေရှင်းနိုင်သောသူ ဖြစ်ရမည်။ ထိုကီစွသည် ကြီးမားသည်ဖြစ်စေ၊ သေးငယ်

သည်ဖြစ်စေ ဖြေရှင်းနိုင်ရမည်၊ ကူညီနိုင်ရမည်။ ထိုဖြေရှင်းနိုင်သော သူများအား အကြောင်းအရာပေါ် မူတည်၍ ပဏာမအဖြစ် ရွေးချယ်မည်"

"ဟာ…ဘာကြီးလဲဟ"

ကြီးဖေက စိတ်ရှုပ်စွာဖြင့် ရေရွတ်သည်။

"ဒီလိုကွာ၊ ဒီနေ့က (၁) ရက်နေ့၊ နောက်လာမယ့် (၃) ရက်နေ့မှာ မေဂျာအတွင်းမှာက ကိစ္စဖြစ်မယ်ဆိုတာ ဘယ်သူမှမသိဘူး ကွာ၊ ဥပမာ ခဲတံပျောက်တာလည်း ဖြစ်ချင်ဖြစ်နိုင်တယ်"

"အင်း"

"ဒီတော့ အဲဒီနေ့မှာ ဖြစ်ပေါ်နိုင်တဲ့ ကိစ္စကိုဖြေရှင်းနိုင်ရမယ် ပေါ့ကွာ"

"ပြဿနာက နှစ်ခုသုံးခုလည်း ဖြစ်နိုင်တာပေါ့"

"အေး…ဟုတ်တယ်၊ ဒါပေမယ့် တစ်ခုလောက်ဖြေရှင်းနိုင် ရင် ရပြီ"

"ဟေး…မဆိုးဘူးကွ၊ ပျော်စရာကြီး၊ ဒါပေမယ့် ဘာပြဿနာ မှ မဖြစ်ဘူးဆိုရင်ရော"

"အဲ့ဒါတော့ ငါလည်းမသိဘူး၊ ခုနက ငါပြောသလိုပဲ၊ သေးသေးမွှားမွှားတစ်ခုတော့ ဖြစ်မှာပေါ့"

"ဟာ…ဒါဆို အားလုံးဖြေရှင်းနိုင်ရင် ဘယ်လိုလုပ်မလဲ"

"ဒါကတော့ သိသာပါတယ် ကြီးဖေရာ"

"ဘာကိုလဲ"

"ဆရာကြီးစိတ်ကြိုက်ကိစ္စတစ်ခုကို ဖြေရှင်းနိုင်တဲ့သူတွေက ရမှာပေါ့"

"အေး ဒါလည်းဟုတ်တာပဲ"

ကြီးဖေက ခေါင်းတဆတ်ဆတ်နှင့် ညိမ့်နေလိုက်သည်။

ထိုအချိန်တွင် ကြော်ငြာသင်ပုန်းရှေ့၌ လူများရှင်းစပြုသွားပြီ ဖြစ်သည်။ ကြီးဖေလည်း ကြော်ငြာသင်ပုန်းနားကပ်သွားပြီး ကြေညာချက်များကို တစ်ခေါက်ဖတ်လိုက်သည်။

"ဆရာကြီးကလည်း လွယ်လွယ်ကလေးတွေ လုပ်တော့မယ်"

သူ့နောက်က ထွက်ပေါ်လာသည့်စကားသံကြောင့် သူလှည့်ကြည့်မိသည်။ သူတို့မေဂျာကင်းဖြစ်သော ကျော်အောင်ဖြစ်သည်။ ကျော်အောင်မှာ သူ့ကိုမြင်သွားပြီး…

"အံမယ်…ဘယ်သူများလဲလို့၊ ကြီးဖေပါလား"

"အေး ငါလည်း ဘာများရေးထားလဲလို့ လာဖတ်ကြည့်တာ"

"ကောင်းတယ်၊ မင်းက ဖတ်ကြည့်ရုံတတ်နိုင်တာပဲ၊ ဖတ်ကြည့်လိုက်၊ ဖတ်ကြည့်လိုက်"

ကျော်အောင့်စကားကြောင့် အားလုံးဝိုင်းရယ်ကြသည်။

ကြီးဖေမှာ မျက်နှာပျက်သွားပြီး သူ့လွယ်အိတ်ကိုကိုင်ကာ လူအုပ်ကြားထဲမှ ထွက်လိုက်လေသည်။



**အိပ်မက်အသစ်**

(၃) ရက်နေ့ ...။

ထိုနေ့တွင် ကျောင်းသား၊ ကျောင်းသူများသည်
စိတ်လှုပ်ရှားမှုအပြည့်ဖြင့် ဘာများဖြစ်မလဲဟု
မျှော်လင့်နေကြသည်။

တချို့က အတန်းထဲမှာထိုင်လျက် ...
တချို့က မေရှာကင်တင်းမှာထိုင်ပြီး ဟိုပြောဒီပြောနှင့်
အခြေအနေကြည့်နေကြသည်။
တချို့က ...
တချို့က ...

နောက်ဆုံးမှာတော့ ...
အဲ့ဒီနေ့က ...
မေရှာနဲ့ပတ်သက်သည့် သိပ်မထူးဆန်းသော
လှုယ်ပြဿနာလေးအချို့ဖြစ်ပွားခဲ့သည်။

## အဖြစ်အပျက်(၁)

ကျောင်းသားတစ်ယောက်သည် ဆရာကြီး၏ ရုံးခန်းထဲသို့ ကြောက်ကြောက်လန့်လန့်နှင့် လှမ်းဝင်လိုက်သည်။ ဆရာကြီးကို လှမ်းမြင်လိုက်သောအခါတွင် ကိုယ်လုံးကို ကိုင်းလိုက်ပြီး…

"ဆရာကြီး…ကျွန်တော့်ကို ခေါ်တယ်ဆိုလို့ပါ"

ဆရာကြီးက မျက်မှန်ပေါ်မှ တစ်ချက်ကျော်ကြည့်လိုက်ပြီး…

"အေး…ထိုင်ဦး"

ဟုဆိုပြီး ဖတ်လက်စဖိုင်ကို ပိတ်လိုက်သည်။ ကျောင်းသားက ဆရာကြီးရှေ့က ခုံမှာဝင်ထိုင်သည်။ ထို့နောက် ဆရာကြီးကို တစ်ချက်ခိုးကြည့်သည်။

"မင်းကို ဆရာမတွေက တိုင်ထားတယ်ကွ"

"ဗျာ"

ကျောင်းသားမှာ ပို၍ထိတ်လန့်သွားသည်။ ပြန်လည်းမမေးရဲသောကြောင့် ဆရာကြီး ဆက်ပြောမည့်စကားကိုသာ နားထောင်နေလိုက်သည်။

"စာမေးပွဲမှာ သူတို့မေးမယ့် မေးခွန်းကို မင်းက စာမေးပွဲမဖြေခင် ခိုးကြည့်ထားတယ်ဆိုပြီး တိုင်ထားတာ"

ဆရာကြီးက မျက်မှန်ကြီးပင့်ပြီး သူ့ကို တစ်ချက်ကြည့်သည်။

"ဟာ...မဟုတ်ရပါဘူး ဆရာကြီး၊ စာမေးပွဲခန်းထဲရောက်မှ မေးခွန်းသိရတာပါ"

ဆရာကြီးက မယုံသင်္ကာကြည့်လိုက်ပြီး...

"ဟုတ်လို့လားကွ"

"ဟုတ်ပါတယ် ဆရာကြီး"

"ပြီးတော့ ဆရာမတွေက ပြောထားသေးတယ်၊ မင်းက အခြားကျောင်းသား၊ ကျောင်းသူတွေကိုလည်း ပြောသေးတယ်ဆို၊ ဘာတဲ့...ဒီအပုဒ်က ဆရာမမေးမှာ သေချာတယ်၊ ဟိုအပုဒ်ကလည်း မေးမှာဆိုပြီး လိုက်ပေးတယ်တဲ့၊ မင်းပေးတဲ့မေးခွန်းတွေကလည်း စာမေးပွဲမှာ သူတို့မေးမယ့် မေးခွန်းတွေဖြစ်နေတယ်တဲ့၊ ဒီတော့ မင်းက သူတို့မေးခွန်းကို မိတ္တူကူးထား၊ ဒါမှမဟုတ် ကြည့်ထားတာကလွဲပြီး မသိနိုင်ဘူးတဲ့၊ ကဲ...အဲ့ဒါကို မင်းဘယ်လိုရှင်းမလဲ မောင်ကျော်ထွန်း"

ကျော်ထွန်းဆိုသော ကျောင်းသားမှာ ဘာမှမပြောနိုင်ဘဲ ဖြစ်သွားသည်။ တွေဝေသွားခြင်းလည်း ဖြစ်သည်။ ဆရာကြီးပြောတာတွေက အမှန်တော့အမှန်တွေဖြစ်သည်။ ကျောင်းသားတွေကိုတော့ ဒါတွေ ဒါတွေပါမည်ဟု နောက်ပြောင်ပြောခြင်းဖြစ်သည်။ ခိုးကြည့်ထားခြင်းတော့မဟုတ်...။ ထိုမေးခွန်းတွေပါမည်ဟု ပြောနိုင်ခြင်းကလည်း... သူတစ်ခု သတိရသွားသည်။

"ဆရာကြီး"

"ပြော...မင်းဆရာမတွေရဲ့ မေးခွန်းကို ခိုးကြည့်ထားတာ မဟုတ်လား"

"မ…မဟုတ်ရပါဘူး ဆရာကြီး"

ဆရာကြီး မျက်မှောင်ကြုတ်သွားသည်။

"ဒါဆို မင်းက မေးခွန်းတွေကို ဘယ်လိုလုပ်သိရတာလဲ"

"ကျွန်တော် ကောက်ရတဲ့စာရွက်ထဲက ရတာပါ"

"ဘာ"

ဆရာကြီးမှာ ကျော်ထွန်းစကားကို မယုံကြည်ဘဲဖြစ်နေသည်။ ကျော်ထွန်းကလည်း တကယ်ပြောနေခြင်းဖြစ်သည်။

"အတန်းထဲက ခုံတစ်ခုံမှာတွေ့လို့ နောက်ပြောင်ပြီး သူများတွေကို လိုက်ပြောမိတာပါ ဆရာကြီး၊ ကျွန်တော်လည်း တကယ်ပါ မယ်မထင်လို့ပါ"

"ဆရာမတွေစာရွက်တော့ မဖြစ်နိုင်ဘူး၊ သူတို့စာရွက်တွေက ငါ့ဆီမှာ အကုန်ရှိတာပဲ"

"ဆရာမတွေ စာရွက်တော့ မဟုတ်ပါဘူး၊ ကျောင်းသား တစ်ယောက်ရဲ့ စာရွက်လို့ထင်ပါတယ်"

ဆရာကြီးမှာ ခေါင်းတစ်ချက်ခါလိုက်သည်။ ကျော်ထွန်း၏ စကားကို မယုံခြင်းဖြစ်သည်။ ကျော်ထွန်းကလည်း ကြောက်ကြောက် ရွံ့ရွံ့ဖြစ်သွားပြီး သူ့လွယ်အိတ်ထဲမှ စာရွက်တစ်ရွက်ကို ထုတ်လိုက်သည်။ သူပြောသည့် စာရွက်ဖြစ်သည်။ ဆရာကြီးက ယူကြည့်သည်။ မျက်မှောင်ကြုတ်၏။ ပြီးနောက် ကျော်ထွန်းကို တစ်ချက်ကြည့်ပြန်သည်။

အိပ်မက်အသစ်

"မဖြစ်နိုင်ဘူး"

"မ…မဟုတ်ရပါဘူး ဆရာကြီး၊ ကျွန်တော် တကယ်မသိတာပါ"

ဆရာကြီးက စာရွက်ကို သူ့စားပွဲပေါ်တွင် တင်ထားလိုက်သည်။

ပြီးနောက်…

"မနက်ဖြန် မင်းမိဘတွေခေါ်လာခဲ့ မောင်ကျော်ထွန်း"

"ဆ…ဆရာကြီး မလုပ်ပါနဲ့၊ ကျွန်တော်…"

ဆရာကြီးက လက်ကာပြသည်။ ကျော်ထွန်းလည်း ပါးစပ်ပိတ်သွားပြီး ဆရာကြီးရှေ့မှ မြန်မြန်လေးထွက်လာခဲ့ရသည်။

ခေါင်းငိုက်စိုက်ငိုက်စိုက်နှင့် ထွက်သွားသော ကျော်ထွန်းကို ကြည့်ပြီး စာရေးမများက သက်ပြင်းကိုယ်စီချမိကြသည်။

ဤသို့ဖြင့် ထိုသတင်းသည် နောက်မိနစ်အနည်းငယ်အကြာတွင် မေဂျာအတွင်း၌ ပျံ့နှံ့သွားလေ၏။



## အဖြစ်အပျက်(၂)

ကောင်မလေးသုံးယောက်သည် ကျောင်းကင်တင်းရှိရာသို့ ရယ်ရယ်မောမောနှင့် လမ်းလျှောက်သွားနေကြသည်။

ထိုသုံးယောက်ထဲမှ တစ်ယောက်သည် လှပသော ကောင်မလေး တစ်ယောက်လည်းဖြစ်သည်။

ထိုကောင်မလေးသုံးယောက်နောက်သို့ ကောင်လေးတစ်ဦး သည် မသိမသာကပ်လိုက်လာနေသည်။

ခဏအကြာတွင် ကောင်မလေးသုံးယောက်မှာ ရိပ်မိသွားပြီး

"ဟဲ့ နောက်ကလူက နင့်ကိုရည်းစားစကား ပြောမလို့လား မသိဘူးနော်"

သုံးယောက်ထဲမှ တစ်ယောက်က ချောချောလှလှ ကောင် မလေးကိုပြောသည်။

ကောင်မလေးက လှည့်ကြည့်သည်။

နောက်ကလိုက်လာသော ကောင်လေးမှာ ရပ်သွားပြီး ဟို ကြည့်ရမလို ဒီကြည့်ရမလို ဖြစ်သွားသည်။

"ကင်တင်းရောက်ဖို့ကလည်း နည်းနည်းလိုသေးတယ်ဟ"

သူမကပြောသည်။

"ဒီတော့"

"ဖျင်းစရာကြီးပဲ၊ သူ့ကို လှမ်းခေါ်လိုက်ရအောင်"

"လုပ်လိုက်လေ"

သူမက သူတို့နောက်မှာ မအူမလည်ဖြစ်နေသော ကောင်လေးကို လှမ်းခေါ်လိုက်သည်။

"ဒီမှာ"

ကောင်လေးက သူ့နောက်ကို လှည့်ကြည့်သည်။

ဘယ်သူမှ မတွေ့တော့မှ သူ့ကိုခေါ်တာလားဟု လက်ဟန်ခြေဟန်နှင့်ပြသည်။

"ဟုတ်တယ်...ရှင့်ကိုခေါ်တာ"

ကောင်လေးပျော်သွားသည်။ တစ်ချိန်တည်းမှာ လန့်လည်းလန့်သွားသည်။ လွယ်အိတ်ကလေးကို ကျစ်ကျစ်ပါအောင်ဆုပ်ရင်း ထိုကောင်မလေးသုံးယောက်များသို့ ကပ်သွားလိုက်သည်။

"ဘာများလဲမသိဘူး"

"ရှင်လည်း ကျွန်မတို့သွားမယ့်လမ်းနဲ့ အတူတူပဲမဟုတ်လား၊ ဒီတော့ စကားလေးဘာလေးပြောပြီး သွားရအောင်ဆိုပြီး လှမ်းခေါ်တာ"

"ဗျာ"

ကောင်လေး အူကြောင်ကြောင်ဖြစ်သွားသည်။

ကောင်မလေးနှစ်ယောက်ကတော့ တခစ်ခစ်နှင့်ရယ်ကြသည်။

"ဘယ်လိုလဲ...လိုက်မှာလား"

ကောင်လေးမှာ ဘာဖြေလို့ဖြေရမှန်း မသိဖြစ်နေသည်။

"မလိုက်ချင်လည်းရတယ်၊ ကဲ…ကျွန်မတို့သွားတော့မယ်"

ဟုဆိုပြီး ကောင်မလေးသုံးယောက်မှာ လှည့်ထွက်သွားလေသည်။

ထိုအခါမှ ကောင်လေးမှာ ပြာပြာသလဲဖြစ်သွားပြီး…

"ဟာ…နေ…နေပါဦး၊ လိုက်မှာပေါ့"

ဟုဆိုပြီး ကောင်မလေးသုံးယောက်နောက်သို့ ပြေးလိုက်သွားလေသည်။

ဤသို့ဖြင့် လူလေးဦးလမ်းလျှောက်နေကြသည်။

"ရှင်က ကျွန်မနောက်ကို ဘာလိုက်လုပ်နေတာလဲ"

"ဟို…မေဂျာလေးနဲ့နာမည်လေး…အဲ…အဲဒါ"

"ဩော်…ရှင်ကလည်း အဲဒါတွေက ကျွန်မဆီမှာ မစုံစမ်းရဘူးလေ၊ ကျွန်မအသိတို့ တစ်နေရာတို့ ဒါမှမဟုတ် နောက်ကနေလိုက်ကြည့်တာတို့ လုပ်ရမှာပေါ့"

"အဲ…အဲဒါ အခုလိုက်ကြည့်ရင်းနဲ့ အခေါ်ခံရတာပဲ"

"ဒီတော့ ရှင်က ဗွင်ဖျက်သွားတာပေါ့"

"ဟုတ်…ဟုတ်"

တခွီခွီနဲ့ ရယ်ကြပြန်သည်။

ကောင်လေးမှာ အူကြောင်ကြောင်နှင့် ခံနေရသည်။

"ရှင်က ဘယ်မေဂျာကလဲ၊ နာမည်ဘယ်လိုခေါ်လဲ"

"ဓာတုကပါ၊ အောင်သူလို့ခေါ်ပါတယ်"

"ဪ..."

ခဏကြာသောအခါတွင် ကင်တင်းကို လှမ်းမြင်နေရပြီဖြစ်သည်။

"ကဲ...ဒီမှာ ရှင်နေခဲ့တော့"

"ဗျာ"

"ဒီနားမှာရပ်ပြီး နေခဲ့တော့၊ ကျွန်မတို့သွားတော့မယ်လို့ ပြောတာပါ"

ကောင်လေးမှာ အင်တင်တင်ဖြစ်သွားပြီး...

"ဟို...မေဂျာနဲ့ နာမည်လေး"

"ရှင်ကလေ...တော်တော်တုံးတာပဲ"

"ဟုတ်...အဲ...ဟုတ်ဘူး"

ကောင်မလေးတွေထံမှ ရယ်သံများ ထွက်လာပြန်သည်။

"ရှင့်ကို ကျွန်မ သနားလို့ တစ်ခုပြောပြလိုက်မယ်"

"ဟာ...ဝမ်းသာလိုက်တာ၊ ပြော...ပြောပါဦး"

"ရှေးခေတ်တုန်းက နာမည်ကြီးတဲ့ ကဗျာတစ်ပုဒ်ရှိတယ်၊ အဲ့ဒီကဗျာအတိုင်း ရှင်လမ်းကြုံရင် ကျွန်မတို့မေဂျာကို ဝင်ခဲ့ပါရှင် ဝင်ခဲ့ပါ"

ဟု ပြောပြီးပြီးချင်း ထွက်သွားလေသည်။

ကောင်လေးမှာ ခေါင်းကုတ်ရင်းကျန်ခဲ့သည်။

**အိပ်မက်အသစ်**

ပြောမလိုလိုနဲ့ ဘာမှလည်းမပြောသွားဘူးဟု တွေးရင်း ဓာတုဗေဒအဆောင်ရှိ ကင်တင်းသို့ပြန်လှည့်လာခဲ့လိုက်သည်။

ဤသို့ဖြင့် ထိုသတင်းသည်လည်း အခြားတို့လီမိုလီ သတင်းများနှင့်အတူ ဓာတုဗေဒကင်တင်း၌ ပြောစရာအကောင်းဆုံး သတင်းအဖြစ်ရှိနေတော့သည်။



(၇)

ကြီးဖေသည် ဓာတုဗေဒကင်တင်းထဲသို့ လှမ်းဝင်လိုက်သည်။ ဒီနေ့ကျမှ ကင်တင်းထဲတွင် လူအများပြည့်နေသည်။

တစ်ယောက်တစ်ပေါက် စကားသံများနှင့်အတူ အော်ကြီးဟစ်ကျယ် စကားသံများကိုလည်း ကြားနေရ၏။

အားလုံး ငြင်းခုန်နေကြသည်မှာ ယနေ့ဖြစ်နေသော ပြဿနာများအကြောင်းဖြစ်သည်။

"ကျော်ထွန်းပြဿနာက တော်တော်မလွယ်ဘူးကွ"

သူ ခုံလွတ်တစ်ခုတွင် ဝင်ထိုင်လိုက်သည်။

မှာစရာမလိုဘဲနဲ့ စားပွဲထိုးလေးက ထုံးစံအတိုင်းလာချသည်။ တစ်ဝိုင်းနှင့်တစ်ဝိုင်း ပြောနေကြသည့် ပြဿနာများ မတူကြချေ။

သူကတော့ ထိုပြဿနာများကို ဖြေရှင်းရန် စိတ်မဝင်စားသောကြောင့် လွယ်အိတ်ထဲမှ စာအုပ်တစ်အုပ်ထုတ်ဖတ်ရန် ပြင်လိုက်သည်။

"ဒီကောင့်နှယ် တိုက်တိုက်ဆိုင်ဆိုင် မေးခွန်းတွေသွားတွေ့ရ
တယ်လို့ကွာ"

သူ့အေားနားကပိုင်းမှ ပြောနေကြခြင်းဖြစ်သည်။ အသံကျယ်
ကျယ်ပြောနေကြသောကြောင့် စာဖတ်လို့မရဘဲ သူတို့၏စကားသံများ
သာ နားထဲဝင်နေသည်။

"ကျော်ထွန်းက တကယ်ပဲ မေးခွန်းတွေခိုးကြည့်ထားလို့
လား"

"ဟာ…သူက၊ မေးခွန်းဘယ်မှာရှိမှန်းတောင် မသိ ဘူး"

"ဟုတ်ရောဟုတ်လို့လား"

"ဟာ…ဒီကောင့်အကြောင်း ငါသိပါတယ်ကွ"

"ဒါဆို သူပြောတဲ့အတိုင်းပဲ မေးခွန်းတွေကို စာရွက်တစ်ရွက်
ထဲကရတာပေါ့"

"အေး…ဟုတ်တယ်"

"ဘယ်လိုစာရွက်မျိုးလဲ၊ ဘာတွေရေးထားလို့လဲ"

"စာရွက်ကတော့ ရိုးရိုးဗလာစာရွက်ပါပဲ၊ စာရွက်ပေါ်မှာ
တော့ မင်နီ၊ ပြာ၊ စိမ်းစတာတွေနဲ့တော့ စတားတွေ(ခရေပွင့်)လုပ်
ထားတာကိုတော့ ငါတွေ့ရတာပဲ"

နားထောင်နေသော ကြီးဖေသည် တွန့်ခနဲဖြစ်သွားသည်။

"ဆရာကြီးကရော သူပြောတာယုံလား"

"မယုံဘူးတဲ့၊ မနက်ဖြန် မိဘခေါ်လာနိုင်းနေတယ်"

ဆိပ်မက်အသစ်

“ဟာ…ဒါဆို ဒီကောင် ကျောင်းထုတ်ခံရမလား မသိဘူး”

“မပြောတတ်ဘူးကွာ”

ကြီးဖေသည် သောက်လက်စ လက်ဖက်ရည်ခွက်အောက်သို့ ပိုက်ဆံထိုးထည့်လိုက်သည်။

သူ့ပုံစံသည် ခပ်လောလော အနေအထားပုံစံဖြစ်သွားသည်။ ထို့နောက် လက်ထဲမှစာအုပ်ကို လွယ်အိတ်ထဲ အတင်းထိုးထည့်ပြီး ကင်တင်းထဲမှ ထွက်လိုက်သည်။



(၈)

အောင်သူဆိုသော ကောင်လေးနားတွင်လူများ ဝိုင်းအုံနေသည်။ ယနေ့ သူဖြစ်လာသော ပြဿနာကို ဝိုင်းစဉ်းစားဖြေရှင်းနိုင်ရန် အတွက်ဖြစ်သည်။

သို့မှသာ လှူငယ်ပွဲတော်အတွက် ပြဿနာတစ်ခုကို ဖြေရှင်းနိုင်မှာမဟုတ်ပါလား . . .။

"သူက မင်းကို အဲ့ဒီတစ်ခုတည်းပြောသွားတာလား"

"ဟုတ်တယ်ဗျ"

အားလုံး စဉ်းစားရကျပ်သွားသည်။

လွယ်တော့လွယ်ပါသည်။ ထိုကောင်မလေးနောက်ကို တစ်ယောက်ယောက်အား နောက်ယောင်ခံလိုက်နိုင်း၊ နာမည်စုံစမ်းနိုင်း၊ ဒါဆိုရင်ဖြစ်ပါသည်။ သို့သော် အားလုံးသည် ထိုသို့မလုပ်ချင်ကြချေ။

"ကဗျာတစ်ပုဒ်ဆိုတော့ ရှေးခေတ်က နာမည်ကြီးတဲ့ ကဗျာတွေကအများကြီး၊ ဘာကိုဆိုလိုတာလဲ"

တစ်ယောက်က ဝင်ပြောသည်။

"အဲ့ဒီကောင်မလေးက မြန်မာစာကျောင်းသူများလား မသိဘူးနော်"

"အေး…မင်းပြောတာ နီးတော့နီးစပ်တယ်"

ထိုသို့ဖြင့် တစ်ယောက်တစ်ပေါက် ပြောဆိုရင်း ငြင်းခုန်နေကြသည်။ သို့သော် အဖြေမှန်ကိုတော့ ယခုထိစဉ်းစား၍ မရသေးချေ…။

ဓာတုဗေဒမေဂျာအတွင်း တစ်စနှင့်တစ်စ ငြင်းခုန်မှုအရှိန်များ ပြင်းထန်လာကြသည်။ ကျော်ထွန်းကိစ္စ၊ အောင်သူကိစ္စနှင့် အခြားတစ်ခုနှစ်ခု နာမည်ကြီးပြဿနာများသည် ထိပ်ဆုံးမှပါဝင်လေသည်။

အချိန်ကြာလာသည်နှင့်အမျှ ထိုသို့ဖြေရှင်းငြင်းခုန်နေရသည်ပင် ပျော်စရာကောင်းလာသည်ဟု အားလုံးကထင်မိကြသည်။

"ဒါမှမဟုတ် အဲ့ဒီကောင်မလေးက မင်းကိုစိတ်ရှုပ်သွားအောင် လုပ်တာလည်းဖြစ်နိုင်တာပဲ"

အောင်သူက ခေါင်းခါရမ်းရင်း

"မသိတော့ပါဘူးဗျာ"

ဟုဆိုလိုက်သည်။

ထိုစဉ်…

သူတို့ထိုင်နေသော တစ်ဖက်ဝိုင်းမှ စကားသံတစ်ခုထွက်ပေါ်လာသည်။

**ဖိုးပိမက်အသစ်**

"အောင်သူ့ကို ပြောသွားတဲ့ကောင်မလေးက သူ့ရဲ့မေဂျာ ရယ်၊ သူ့နာမည်ရယ်ကို ကဗျာလေးတစ်ခုနဲ့ ဖော်ပြသွားတာပဲ"

သူ့သူငယ်ချင်းများကို ပြောပြနေသော ကောင်မလေး တစ်ယောက်၏ အသံဖြစ်သည်။

ကင်တင်းတစ်ခုလုံးသည် ထိုအသံထွက်ပေါ်ရာ ကောင်မလေး ဆီသို့ အားလုံးဝိုင်းကြည့်လိုက်ကြသည်။



(၉)

ကြီးဖေသည် သူ၏ခြေလှမ်းများကို ခပ်သွက်သွက်လှမ်း
သည်။ ကျော်ထွန်းတွေ့သွားသော စာရွက်သည် သူ့စာရွက်ဖြစ်သည်။

ထိုစာရွက်ထဲတွင် သူ့အမျိုးတစ်ယောက်၏ လိပ်စာမှတ်ထား
သည်။ ပြီးခဲ့သည့် တစ်ရက်နှစ်ရက်ထဲက ရှာနေသည်မှာ ကြာပြီဖြစ်
သည်။

အခုမှ ကျော်ထွန်းကတွေ့ပြီး ပါမောက္ခဆီရောက်နေသည်ကို
သိရခြင်းဖြစ်သည်။

ထိုစာရွက်ရပါက မနက်ဖြန် အမျိုးအိမ်ကို သွားရဦးမည်ဟု
ကြီးဖေတွေးလိုက်မိသည်။

"ဆရာကြီးရှိလား အစ်မ"

ရုံးခန်းထဲက စာရေးမတစ်ယောက်ကို မေးလိုက်သည်။

"ရှိတယ် အထဲမှာ"

ကြီးဖေသည် တံခါးကိုတွန်းဖွင့်ဝင်လိုက်သည်။ နည်းနည်း
ဘာ့လန့်သည်။ ဆရာကြီးသည် မထင်ရင်မထင်သလို အော်ဟစ်ဆူပူ
တတ်သောကြောင့်ဖြစ်သည်။ ဆရာကြီးက ထုံးစံအတိုင်း မျက်မှန်
ပါမှ ကျော်ကြည့်သည်။

"ကြီးဖေပါလား၊ ဘာကိစ္စလဲ"

"ဆရာကြီးဆီက စာရွက်လေး လာပြန်ယူတာပါ"

"ဘာစာရွက်လဲကွ"

"ကျော်ထွန်းကောက်ရတယ်ဆိုတဲ့ စာရွက်ပါ ဆရာကြီး"

"ဟော…အဲ့ဒါမင်းဟာလား"

ဆရာကြီးက အံ့သြစွာနှင့် မျက်မှန်ကိုချွတ်လိုက်သည်။ ထို့
နောက်

"ဒါဆို မင်းက မေးခွန်းတွေကို ခိုးကြည့်ထားတဲ့ သူပေါ့"

ကြီးဖေမှာ မျက်လုံးပြူးသွားပြီး…

"မ…မဟုတ်ပါဘူး ဆရာကြီး"

ဟု အထစ်ထစ်အငေါ့ငေါ့နှင့် ပြောလိုက်လေသည်။



(၁၀)

"အဲ့ဒီကောင်မလေး ပြောတဲ့စကားထဲမှာ 'ဝင်ခဲ့ပါ'၊ 'ဝင်ခဲ့ပါ' ဆိုတဲ့ စကားပါတယ်မဟုတ်လား"

"အင်း"

ကောင်မလေး၏ သူငယ်ချင်းက ထောက်ခံသည်။

နားထောင်နေသော သူများအားလုံးကလည်း လက်ခံကြသည်။

"ဆရာကြီးမင်းသုဝဏ်ရဲ့ ကဗျာတစ်ပုဒ်ရှိတယ်"

"ဘာကဗျာလဲ"

"ကဗျာရဲ့နာမည်က 'ဝင်ခဲ့ပါ'တဲ့"

"ဟာ"

အားလုံး၏ သိချင်စိတ်များ ပြင်းထန်သွားကြသည်။

ကာယကံရှင်ဖြစ်သော အောင်သူပင် ထိုကောင်မလေးဝိုင်းသို့ လာပြောင်းထိုင်သည်။

အိပ်မက်အသစ်

''လုပ်ပါဦး၊ ခင်ဗျားသိရင်လည်း ပြောပြစမ်းပါ''

ကောင်မလေးက အောင်သူ့ကို တစ်ချက်ကြည့်သည်။

ပြီးနောက် သူငယ်ချင်းများကိုလည်း ကြည့်ပြီး…

''ကဗျာ အရင်ရွတ်ပြမယ်''

ဟုဆိုပြီး ဆရာကြီးမင်းသုဝဏ်၏ 'ဝင်ခဲ့ပါ' ကဗျာကိုရွတ်ပြသည်။

ဝင်ခဲ့ပါ

ထန်းပင်ကြီးတွေဝေဝေ
ပေပင်ကြီးတွေမတ်မတ်
မလေးနေတဲ့ရပ်၊
မလေးနေရပ်ရောက်တဲ့ခါ
မေးလို့ဝင်ခဲ့ပါ၊
ကြံသကာနဲ့ ရေကြည်အေး
ကျွေးတိုက်ပါ့မယ်လေး။ ။

''အဲ့ဒါနဲ့ မေကျာနာမည်တို့၊ သူ့နာမည်တို့နဲ့ ဘယ်လိုပတ်သက်လို့လဲ''

အောင်သူက မေးသည်။

''ကဗျာရဲ့ဆိုလိုရင်းကတော့ သိတဲ့အတိုင်းပဲ၊ ကောင်မလေးက ကောင်လေးကို ဖိတ်ထားတာ၊ အဲ့ဒါကို ရှင်ကြိုက်တဲ့ကောင်မလေးက

ပြောသွားတယ်ဆိုတော့ ရှင့်ကိုဖိတ်ထားတာနဲ့ အတူတူပါပဲ"

"ဟုတ်ပါပြီ၊ ကျွန်တော်က ဘယ်မေဂျာသွားပြီး ဘယ်လို စုံစမ်းရမှာလဲ"

"သေချာတွေးမယ်ဆိုရင် ကဗျာထဲမှာ သစ်ပင်တွေပါတယ်၊ သူနေတဲ့နေရာမှာလည်း သစ်ပင်တွေရှိတယ်၊ တစ်နည်းထပ်ဆိုလိုချင်တာက သစ်ပင်တွေရှိတဲ့ဘာသာရပ်လို့ ဆိုလိုချင်ပုံရတယ်"

"ဟာ…သိပြီ၊ ဆက်ပါဦး"

"အဲ့ဒါဆိုတော့ ကောင်မလေးမေဂျာက Botany (ရုက္ခဗေဒ)ဖြစ်နိုင်တယ်"

အောင်သူနှင့်အတူ အားလုံးမှာလည်း ကောင်မလေး၏ အဖြေကို ကျေနပ်သွားကြသည်။

ဖြစ်လည်းဖြစ်နိုင်သည်ဟု အားလုံးကထင်ပါသည်။

"မေဂျာသိရင်တော့ ရှင်ရှာလို့ပြုလို့ စုံစမ်းလို့ရပါတယ်၊ ဒါပေမယ့် ကဗျာထဲကအတိုင်းဆိုရင် ကောင်မလေးနာမည်က 'ရေကြည်အေး'တော့ မဖြစ်နိုင်ဘူးရှင့်"

"ဒါဆို ဘာဖြစ်နိုင်မလဲ"

"ချိုတော့ပါရမယ်၊ ကြံသကာဆိုတော့လေ"

ကောင်မလေးက ရယ်ရယ်မောမောနှင့်ပြောသည်။

အားလုံးကလည်း သဘောကျပြီး ဝိုင်းရယ်ကြသည်။

အိပ်မက်အသစ်

အောင်သူမှာ စိတ်ဓာတ်တက်ကြွသွားပြီး ထိုင်ခုံမှထလိုက်သည်။

"အခုပဲ သွားရှာကြည့်မယ်ဗျာ"

ဟုဆိုပြီး သူ့သူငယ်ချင်းတစ်ယောက်နှင့် ထွက်သွားလေတော့သည်။

ခဏကြာသောအခါတွင် အောင်သူသည် ပြုံးပြုံးပြုံးပြုံးနှင့် ပြန်ရောက်လာလေသည်။ အားလုံးကိုလည်း လက်မထောင်လိုက်လေ၏။

ထိုကောင်မလေးသည် ဓာတုဗေဒမေဂျာ၏ ကွင်း (Queen) ဖြစ်ပြီး နာမည်မှာ 'ယေးယေး' ဟုခေါ်လေသည်။

ထိုစဉ် ကျောင်းသားလေးတစ်ဦးသည် ကင်တင်းသို့ အမောတကောနှင့် ပြေးဝင်လာသည်။

သူ့သူငယ်ချင်းများရှိသော ခုံတစ်ခုတွင် ဝင်ထိုင်လိုက်ပြီး သတင်းတစ်ခုအား ပြောပြလိုက်သည်။

ကျော်ထွန်းကိစ္စကြောင့် ကြီးမေ ရုံးခန်းရောက်နေသည်ဆိုသည့် သတင်းဖြစ်သည်။

အားလုံးမှာ ဟာခနဲဖြစ်သွားပြီး တချို့က ဟိုဟိုဒီဒီနားထောင်ရန်အတွက် ရုံးခန်းဘက်သို့ ထွက်သွားလေသည်။



အိမ့်မက်အသစ်

(၁၁)

“ဒါဆိုမင်းက မေးခွန်းတွေကို ဘယ်လိုလုပ်သိနေရတာလဲ၊ ဒါအပြစ်ကြီးတယ် မောင်ကြီးဖေ”

“ဟုတ်…ဟုတ်ကဲ့ပါ”

ကြီးဖေမှာ ခေါင်းငုံ့ထားလိုက်သည်။

“မင်း သေချာမရှင်းပြနိုင်ရင်တော့ မင်းမိဘတွေကို ခေါ်တွေ့ရမှာပဲ၊ နေပါဦး၊ ဒီလောက် ပြဿနာတက်နိုင်တယ်ဆိုတာ သိရဲ့သားနဲ့ မင်းက ဒီစာရွက်ကို ဘာဖြစ်လို့ပြန်ယူချင်ရတာလဲ”

ဆရာကြီးကလည်း ကြီးဖေ၏ အကြောင်းကြောင်းလုပ်ရပ်ကို နားမလည်နိုင်ဘဲဖြစ်နေသည်။

ကြီးဖေသည် သူတို့မကျောမှာ ရိုးသားမှုရှိသည့် လူတစ်ယောက်ဆိုတာလည်း သူ သိထားသည်။

**အိပ်မက်အသစ်**

"အဲဒီစာရွက်မှာ ကျွန်တော့်အမျိုးတစ်ယောက်ရဲ့ လိပ်စာပါ လို့ပါ ဆရာကြီး၊ သူ့ကို အရေးကြီးကိစ္စနဲ့ သွားတွေ့ရမှာပါ၊ အဲ့ဒါကြောင့်ပါ"

ဆရာကြီးက စာရွက်ကိုထုတ်ကြည့်သည်။

ကြီးဖေပြောသလိုပင် လူတစ်ယောက်၏ လိပ်စာကိုတွေ့ရသည်။ ထို့နောက် ခေါင်းငြိမ့်လိုက်ပြီး…

"ကောင်းပြီလေ၊ ဒါကိုတော့ လက်ခံတယ်၊ မေးခွန်းကိစ္စကို မင်းဘယ်လိုဖြေရှင်းမလဲ"

ကြီးဖေသည် သက်ပြင်းချလိုက်သည်။ ထို့နောက် ဆရာကြီးကို မော့ကြည့်လိုက်ပြီး…

"ဆရာကြီး"

ဟု ခေါ်လိုက်သည်။

"ဘာလဲ ပြော"

ဆရာကြီးလေသံက နည်းနည်းမာနေသည်။

"ဒီလိုပါ ဆရာကြီး"

ဟု ကြီးဖေက စကားစလိုက်လေသည်။



(၁၂)

ထိုအချိန်တွင် မေဂျာ၏ အခန်းလွတ်တစ်ခုတွင် လူသုံးဦး စကားပြောနေကြသည်။

"ငါတို့ ဘာပြဿနာမှ မဖြေရှင်းရသေးဘူးကွ"

"အေး…ဟုတ်တယ်၊ အဲ့ဒါ ဒုက္ခဖြစ်တာပဲ"

"ကျော်ထွန်းကိစ္စလည်း မရှင်းနိုင်၊ အောင်သူ့ကိစ္စလည်း မပြောတတ်နဲ့ ဘာလုပ်ရမှန်းတောင် မသိတော့ဘူး"

"မဖြေရှင်းနိုင်ရင် မင်း ရွေးခံရမယ်မထင်ဘူး ကျော်အောင်"

ကျော်အောင်က ခေါင်းကိုခါယမ်းလိုက်သည်။

သူရွေးခံရမှဖြစ်မည်။ သူသည် ဒီမေဂျာရဲ့ ကင်းလည်းဖြစ်သည်။ အရွေးမခံရရင် သူအရှက်ရနိုင်သည်။

အားလုံးက သူ့ကိုမေးငေါ်ကြတော့မည်။ မေဂျာမှာ သူ့ရဲ့ တောက်ပမှုတွေ ပျောက်ဆုံးသွားရနိုင်သည်။

အိဝ်မက်အသစ်

"ကြီးမေတောင် အခုကျော်ထွန်းကိစ္စနဲ့ ပါမောက္ခအခန်းထဲ ရောက်နေပြီ"

"ဘာ…ဒီကောင်က"

ကျော်အောင့်အသံမှာ နည်းနည်းကျယ်သွားသည်။

"သူ ဖြေရှင်းနိုင်မှာ မဟုတ်ပါဘူး၊ ဘာ အကြောင်းကြောင်း သွားလုပ်လဲမှ မသိတာ"

သူ့သူငယ်ချင်းအဖြေကို ကျော်အောင်ကျေနပ်သွားသည်။ ထို့နောက် မတ်တပ်ရပ်လိုက်ပြီး အခန်းထဲ၌ ဟိုလျှောက်ဒီလျှောက် လုပ်နေရသည်။

တွေးနေခြင်းဖြစ်သည်။

ဘယ်လိုလုပ်ရင်ကောင်းမလဲ…။

သူ့သူငယ်ချင်းနှစ်ယောက်ကလည်း သူ့ရဲ့အရိပ်အခြေကိုပဲ ကြည့်နေရသည်။

ကျော်အောင့်စကားသည် သူတို့အတွက်တော့ ထောက်ခံရာ တစ်ခုတည်းသော နည်းလမ်းဖြစ်သည်။

ကျော်အောင်သည် ထိုင်ခုံတွင်ပြန်ထိုင်လိုက်သည်။

သူ့ကို မေဂျာမှာ လူကြိုက်မများလို့မဖြစ်ချေ…။

ထို့ကြောင့် ဆုံးဖြတ်ချက်တစ်ခုကို အလျင်အမြန်ချလိုက်သည်။

"ငါတို့ဖြေရှင်းနိုင်မယ့် ပြဿနာကို ငါတို့ဘာသာငါတို့ လုပ်မယ်ဆိုရင်ရောကွာ"



(၁၃)

''စိတ်ပညာဆိုင်ရာ စမ်းသပ်မှုစာအုပ်ထဲက ရေးထားတဲ့ နည်းလမ်း ဟုတ်မဟုတ် စမ်းသပ်ရင်းနဲ့ ဖြစ်သွားတာပါ''

ဆရာကြီး မျက်မှောင်ကြုတ်သွားသည်။ စိတ်လည်းဝင်စားသွားသည်။

''အဲ့ဒါနဲ့ စာမေးပွဲမေးခွန်းက ဘာဆိုင်လို့လဲ''

''အဲ့ဒီစာအုပ်ထဲက စိတ်ပညာရှင်ကပြောကယ်''

''အင်း''

ကြီးဖေမှာ နည်းနည်းပြောရဲ ဆိုရဲရှိလာသည်။

ထိုအချိန်တွင် ရုံးခန်းအပြင်ဘက်တွင်လည်း စာရေးမများကို ကြီးဖေအကြောင်း စုံစမ်းမှုတို့သည် တစ်စတစ်စ များပြားလာလေသည်။ ကြီးဖေက ဆက်ပြောသည်။

''စာသင်ခန်းထဲက ပို့ချချက်တစ်ခုကို နားထောင်တဲ့အခါ ဆရာတွေက အလေးအနက်ထားပြီး ပို့ချတဲ့ ခေါင်းစဉ်အမျိုးမျိုးကို

အခုစိုက်မယ်ဆိုရင် စာမေးပွဲမှာမေးမယ့် အကြောင်းအရာကို ရွေးထုတ်နိုင်လိမ့်မယ်တဲ့''

ဆရာကြီးက ကြီးဖေစကားကို မယုံတစ်ဝက် ယုံတစ်ဝက်ဖြင့် နားထောင်နေသည်။

ကြီးဖေကပဲ ဆက်ပြောရသည်။

''အဲဒီတော့ ကျွန်တော်ကလည်း လက်တွေ့မမြင်ရရင် မယုံတဲ့လူဆိုတော့ စမ်းသပ်ဖို့ဆုံးဖြတ်လိုက်တယ် ဆရာကြီး''

ဆရာကြီးက မျက်မှန်ကို ပင့်တင်လိုက်သည်။

ကြီးဖေစကားကိုလည်း ပိုပြီး စိတ်ဝင်စားလာပုံရသည်။

''အဲဒါနဲ့ ကျွန်တော်လည်း ဆရာ၊ ဆရာမတွေရဲ့ ပို့ချချက်တွေကို သိစိတ်နဲ့ရော မသိစိတ်နဲ့ပါ သေချာစူးစိုက်နားထောင်ခဲ့ပါတယ်''

''အဲဒီတော့ ဘာတွေ့လဲ''

ဆရာကြီးက ကိုယ်ခန္ဓာကို ရှေ့သို့ကိုင်းကာ စိတ်ဝင်တစားမေးလိုက်သည်။ ကြီးဖေကလည်း တစ်ရှူးတစ်ရွက်ထုတ်ကာ မျက်နှာကို ဟိုပွတ်ဒီပွတ်လုပ်နေသေးသည်။ ပြီးမှ

''ဆရာ၊ ဆရာမတွေရဲ့ ထူးခြားတဲ့ ဟန်အမူအရာလေးတွေ တွေ့ရတယ်''

''ဘယ်လို''

''ဒီလိုပါ ဆရာကြီး၊ ဆရာ၊ ဆရာမတွေကိုယ်တိုင်က မေးခွန်းထုတ်တဲ့လူတွေဆိုတော့ သူတို့မေးမယ်လို့ ဆုံးဖြတ်ထားတဲ့

မေးခွန်းပုစ္ဆာကို သင်ကြားပို့ချနေတဲ့အချိန်မှာ သူတို့ရဲ့မသိစိတ်က တယည့်တွေကို ဂရုတစိုက်လုပ်ဖို့ အာရုံစူးစိုက်ဖို့ လိုလားတဲ့ဟန်အမူအရာလေးတွေ ပြတတ်တယ် ဆရာကြီး"

ဆရာကြီးမှာ မျက်မှောင်ကြုတ်သွားပြန်သည်။

ဟုတ်လို့လားဆိုတဲ့ ပုံစံပါ…။ ကြီးဖေကပဲ ဆက်ပြောရသည်။

"ဥပမာ ဆရာမဒေါ်ဥမ္မာဆိုရင် အရေးကြီးတဲ့ပုစ္ဆာသင်တဲ့အခါ (သို့) သူမေးမယ်လို့ ဆုံးဖြတ်ထားတဲ့ ပုစ္ဆာကိုသင်နေတဲ့ အချိန်ဆိုရင် သာမန်သင်နေကျအသံထက်ပိုပြီး အသံကျယ်ကျယ် သင်တတ်တယ်"

ကြီးဖေစကားကြောင့် ဆရာကြီး မျက်လုံးပြူးသွားသည်။

"အဲ့ဒီအခါမှာ ကျွန်တော်က အရေးကြီးတဲ့ပုစ္ဆာဆိုပြီးတော့ စတား(ခရေပွင့်)ငါးခုလောက် ပြထားလိုက်ရော"

"ဒါဆို ဆရာမဒေါ်ကြည်ကြည်စိန်ရော"

"ဆရာမ ဒေါ်ကြည်ကြည်စိန်က စာသင်ရင် ခပ်မြန်မြန်လေး သင်တတ်ပါတယ် ဆရာ၊ အရေးကြီးတဲ့ ပုစ္ဆာသင်ပြီဆိုရင်တော့ အဲ့ဒီလိုမဟုတ်တော့ဘူး"

"ဘယ်လိုဖြစ်သွားလဲ"

"တော်တော်လေးကို နှေးသွားတယ် ဆရာကြီး၊ စကားပြောတာ၊ ကျောက်သင်ပုန်းမှာ ရေးထားတာကအစ နှေးသွားတယ်

တစ်ခါတစ်ခါဆို စာတစ်ကြောင်းကို နှစ်ခေါက်လောက် ပြန်ပြောတတ်တယ်၊ အဲ့ဒါဆိုရင် ကျွန်တော်က ခရေပွင့်မှတ်ထားလိုက်တယ်"

ဆရာကြီးက သက်ပြင်းချသည်။

တပ်ထားသောမျက်မှန်ကိုလည်း ချွတ်လိုက်ပြီး စားပွဲပေါ်သို့ ပစ်တင်လိုက်သည်။

ကိုယ်ခန္ဓာကိုလည်း ကုလားထိုင်နောက်သို့ မှီချလိုက်သည်။ ထို့နောက် ကြီးဖေကိုကြည့်လိုက်ပြီး...

"ငါ...ငါကရော"

ဟု မေးလိုက်လေ၏။

ကြီးဖေမှာ ဆရာကြီးစကားကို နားမလည်ဘူးဖြစ်သွားသည်။

ဆရာကြီးကလည်း ပြန်မေး၏။

"ငါလည်း ဘယ်လိုအမူအယာတွေ ပြတတ်လဲလို့"

ကြီးဖေတိတ်သွားသည်။

ပြောလိုက်ရင်ကောင်းမလားဆိုပြီး ချိန်ဆနေတာပါ။

ပြောလိုက်ရင်လည်း အရေးကြီးတဲ့ မေးခွန်းပုစ္ဆာတွေမှာ ဆရာကြီး အဲဒီလိုမလုပ်တော့ရင် သေပြီဟု တွေးလိုက်မိသေးသည်။

"ပြောပါကွ"

"ဟုတ်...ဟုတ်ကဲ့ ပြောပါမယ်"

"အေး...ပြော"

ဆရာကြီးက မေးစေ့ကို လက်နှင့်ထောက်ထားရင်း ကြီးဖေ

ဘာပြောမလဲဆိုပြီး နားထောင်နေသည်။

ကြီးဖေက သက်ပြင်းတိုးတိုးလေးချလိုက်ပြီး…

"ဆရာကြီးက စာသင်ရင် ထိုင်ခုံနဲ့ထိုင်ပြီး စာသင်တော့ အရေးကြီးတဲ့ ပုစ္ဆာတွေ၊ ထူးထူးခြားခြားအကြောင်းတွေရှိရင် ဆရာကြီး ခုနကလုပ်သလို လုပ်ပါတယ်"

"ဟော…ဘယ်လို"

ထိုင်ခုံကိုမှီနေရာမှ ဆတ်ခနဲခွာလိုက်ပြီး ကြီးဖေကိုကြည့်လိုက်သည်။

ကြီးဖေလည်း လန့်သွားပြီး ထိုင်ခုံနှင့် သူ၏ကျော ကပ်သွားသည်အထိ နောက်ဆုတ်လိုက်မိသည်။

"ငါနားမလည်ဘူးကွ၊ ငါဘယ်လိုလုပ်တာ"

"ဟို…ခုနကလိုမျိုးလေ…ဆရာကြီး၊ မျက်မှန်ကိုချွတ် စားပွဲပေါ်ကိုပစ်တင်၊ ခုံနောက်ကိုမှီ၊ အဲ့ဒီလိုမျိုးလုပ်တယ်လို့ ပြောတာပါ"

ဆရာကြီးက ကြီးဖေကို သေသေချာချာ စိုက်ကြည့်နေသည်။ အတော်ကြာသည်အထိ စိုက်ကြည့်နေဆဲဖြစ်သည်။ ကြီးဖေမှာ မနေတတ်မထိုင်တတ် ဖြစ်လာသည်။ နောက်ဆုံးမနေနိုင်တော့ဘဲ…

"ဆရာကြီး"

ဟု ခေါ်လိုက်သည်။

ဆရာကြီးက ပြန်မထူးချေ…။ သူကပဲ ဆက်ပြောရသည်။

"ဆရာမတွေရဲ့မေးခွန်းကို ကျွန်တော်နိုးကြည့်ထားကာ

မဟုတ်ပါဘူး။ ကျွန်တော် ခန့်မှန်းတဲ့မေးခွန်းတွေက အကုန်မဟုတ် တာတောင် တော်တော်များများ တူနေတဲ့အတွက် ဆရာမတွေက အဲဒီလို ထင်နေကြတာပါ။ တိုက်ဆိုင်တာလည်း ဖြစ်နိုင်ပါတယ် ဆရာကြီး''

ဆရာကြီးက ဘာမှပြန်မပြောချေ။ မျက်နှာကို ခပ်တည်တည် လုပ်ပြီး...

''မင်းသွားတော့''

ဟုပြော၏။

ကြီးဖေလည်း ထိုင်နေရာမှ ကုပ်ကုပ်လေးထပြီး ဆရာကြီး အား အရိုအသေပေးကော လှည့်ထွက်ရန်ပြင်လိုက်သည်။

''ကြီးဖေ''

''ဗျာ...ဆရာကြီး''

ကမန်းကတန်း ပြန်လှည့်ပြီး ထူးလိုက်ရသည်။

''မင်း...မဆိုးဘူး''

တစ်ခွန်းသာပြောသည်။

ထို့နောက် ဆရာကြီးမှာ စာဆက်ရေးနေသည်။ ကြီးဖေလည်း ရုံးခန်းထဲမှ ခပ်မြန်မြန်ထွက်လိုက်သည်။

ရုံးခန်းအပြင်တွင် သူ့ကိုစောင့်နေသော အတန်းထဲက သူငယ် ချင်းအချို့ကို တွေ့လိုက်ရသည်။



နောက်(၂)ရက်ခန့်ကြာသောအခါတွင်
ကြေညာချက် (၂)ခု ထွက်ပေါ်လာလေတော့သည်။

## လှူငယ်ပွဲတော်အတွက် ကြေညာချက်(၁)

၁။ အခြားဘာသာစကားတစ်ခု တတ်ကျွမ်းခြင်း

၂။ မေဂျာအတွင်း၌ သတ်မှတ်စာမေးပွဲရမှတ်များ ပြည့်မီခြင်း

၃။ လူမှုဆက်ဆံရေးကောင်းမွန်ခြင်း

၄။ မေဂျာအတွင်းရှိ ပြဿနာအချို့အား ဖြေရှင်းနိုင်ခြင်း

စသည့် အရည်အချင်းများနှင့် ပြည့်မီသော လှူငယ်လေးဦးအား အောက်ပါအတိုင်း ပဏာမရွေးချယ်လိုက်ပါသည်။

(၁) ကျော်အောင်

(၂) ကြီးဖေ

(၃) ယေးယေး

(၄) ဝတ်ရည်မွန်

## ကြေညာချက်(၂)

ထိုပဏာမရွေးချယ်ထားသော လူလေးယောက်အနက်မှ အရည်အချင်းပြည့်မီသော ယောက်ျားလေးတစ်ဦးနှင့် မိန်းကလေးတစ်ဦးအား အောက်ပါအတိုင်း ရွေးချယ်ပါမည်။

(၁) ထိုယောက်ျားလေးနှင့် မိန်းကလေးသည် မေဂျာအတွင်း၌ လူကြိုက်များရပါမည်။

(၂) နောက်ဆုံး သတ်မှတ်ရက်အတွင်း၌ မေဂျာအတွင်းရှိ ကျောင်းသား၊ ကျောင်းသူများက မဲပေးသည့်စနစ်ဖြင့် ရွေးချယ်မည် ဖြစ်ပါသည်။

(၃) သို့ဖြစ်ပါ၍ ထိုပဏာမရွေးချယ်ခံရသော လေးဦးသည် မိမိတို့ကိုယ်ပိုင်နည်းလမ်းများဖြင့် လူကြိုက်များအောင် လုပ် ဆောင်နိုင်ပါသည်။

(၄) ကျောင်းစည်းကမ်းကို ထိခိုက်ခြင်းမှလွဲ၍ ကျန်ကိစ္စများအား လွတ်လပ်စွာပြုမူနိုင်ပါသည်။

(၅) နောက်ဆုံးရက်မှာ အောက်တိုဘာလ၊ ၃ ရက်နေ့ ဖြစ်သည်။

ဤသို့ဖြင့် သူတို့တွေ စည်းရုံးရမည့်ကာလမှာ တစ်လသာ အချိန်ရှိသည်။

(၁၄)

မေဂျာတစ်ခုလုံး တိတ်ဆိတ်နေသည်။

မထင်မှတ်ဘဲ 'ကြီးဖေ' အရွေးခံရခြင်း…။ ထို့ပြင် သိပ် သတိမထားမိသော ဝတ်ရည်မွန်ဆိုသော ကောင်မလေးတစ်ယောက် ရွေးချယ်ခံရခြင်းတို့က မေဂျာတစ်ခုလုံးကို အံ့ဩမှုဖြစ်စေသည်။

"ကျော်အောင်နဲ့ယေးယေးပဲ အရွေးခံရမယ်ထင်တယ်"

"ဘာဖြစ်လို့လဲ"

"သူတို့က မေဂျာရဲ့ ကင်းနဲ့ကွင်းလေကွာ၊ သူတို့က လူပိုသိတာပေါ့၊ ပိုပြီးလည်း မဲများနိုင်တာပေါ့"

"ကြီးဖေနဲ့ ဝတ်ရည်မွန်ကိုလည်း အထင်မသေးနဲ့နော်၊ သူတို့လည်း သူတို့ဟာသူတို့ ရှိနိုင်တာပဲ"

ဓာတုဗေဒကျောင်းသားနှင့် သင်္ချာကျောင်းသားနှစ်ယောက် စကားပြောနေကြခြင်းဖြစ်သည်။

အိပ်မက်အသစ်

"မသိလို့ မေးရဦးမယ်"

"ဘာလဲ"

"ကျော်အောင်နဲ့ ဝတ်ရည်မွန်က ဘာကိစ္စကို ဖြေရှင်းလို့ အရွေးခံရတာလဲ"

"ကျော်အောင်ကိစ္စကိုတော့ ဘယ်သူမှသိပ်မသိဘူးကွ၊ ဝတ်ရည်မွန်ကိစ္စကိုပဲ သိတယ်"

"ဘာလဲ ပြောပါဦး ငါမသိလို့"

"သိပ်ကြီးကြီးကျယ်ကျယ် မဟုတ်ပါဘူးကွာ၊ အဲ့ဒီနေ့က ငါတို့မေဂျာက ကျောင်းသူလေးတစ်ယောက်က ခိုးမှုတစ်ခုနဲ့ သူ့ရှေ့မှာ စွပ်စွဲခံရတယ်"

"အင်း..."

"အားလုံးရဲ့ရှေ့မှာဆိုတော့ကွာ ကောင်မလေးကလည်း ရှက်တာပေါ့"

"အင်းပေါ့"

"အဲ့ဒီမှာ ဝတ်ရည်မွန်က စွပ်စွဲတဲ့လူရဲ့ စကားလုံးအချို့မှာ မသက်သေစရာ တစ်ချက်နှစ်ချက် ပါတာနဲ့ သူက ရှက်နေတဲ့ ကောင်မလေးအစား ဝင်မေးပေးတယ်"

"ပြီးတော့"

"ရှက်နေတဲ့ ကောင်မလေးကိုလည်းမေးခွန်းတွေ ပြန်ထုတ်ပြီး အားလုံးကျေလည်အောင် ဖြေရှင်းပေးခဲ့တယ်"

"ဟိုကောင်မလေးကရော တကယ်နိုးလား"

"မဟုတ်ဘူးကွ၊ ဒါပေမယ့် တစ်ယောက်နဲ့တစ်ယောက် ပြေလည်အောင် တော်တော်ရှင်းလိုက်ရတယ် ပြောတယ်"

ကျောင်းသားနှစ်ယောက်မှာ ရှေ့ဆက်လျှောက်ရင်း တစ်နေရာ အရောက်တွင် သချာကျောင်းသားက...

"ဘာပဲပြောပြော မင်းတို့မေဂျာရဲ့ လူငယ်ပွဲတော်ရွေးပွဲက မျှော်စရာကြီးကွ"

"အေး...ဟုတ်တယ်၊ မနက်ဖြန်လောက်ဆိုရင် သူတို့ လေး ယောက် ဘာလုပ်မလဲဆိုတာကို သိရပြီ၊ အဲ့ဒီအခါမှာ ငါတို့တွေက ကိုယ်ကြိုက်တဲ့လူကို ထောက်ခံလိုက်ရုံပဲ"

"မိုက်တယ်"

သချာကျောင်းသားမှာ အတော်သဘောကျနေပုံရသည်။

"မင်းတို့မေဂျာက လူတွေပဲ မဲထည့်ခွင့်ရှိတာလား"

"မဟုတ်ဘူး၊ အဓိကကတော့ ငါတို့မေဂျာကပေါ့ကွာ၊ ကျန်တဲ့မေဂျာကလူတွေကလည်း မဲထည့်ချင်တယ်ဆိုရင်လည်း ထည့် င်ပြုထားတယ်"

"ဟာ...အဲ့ဒါဆိုရင် ငါလည်းထည့်မယ်၊ သူတို့တွေ ဘာ ဘွလူကြိုက်များအောင် လုပ်လဲဆိုတာကိုကြည့်ပြီး ငါလည်း မဲထည့် ယ်"

"ထည့်ပေါ့၊ ရပါတယ်"

ပြောပြောဆိုဆိုနှင့် နှစ်ယောက်စလုံးသည် ကင်တင်းတစ်ခုတည်းသို့ ဝင်သွားကြလေ၏။

ထိုကင်တင်းထဲမှ လူများသည်လည်း လှူငယ်ပွဲတော် ရွေးချယ်ပွဲအကြောင်းကိုပဲ ပြောနေကြသည်။

ဤသို့ဖြင့် အခြားမေဂျာက ကျောင်းသားကျောင်းသူများသည်လည်း မည်သည့်နှစ်မှ မလုပ်ဘူးသော ပုံစံဖြင့်ပြုလုပ်သည့် ဓာတုဗေဒမေဂျာ၏ လှူငယ်ပွဲတော် ရွေးချယ်ပွဲအား စိတ်ဝင်စားလာကြလေသည်။



(၁၅)

ကြီးမေသည် စာကြည့်တိုက်နောက်ဘက်ရှိ လူရှင်းသော
မ်းလေးတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်နေလေသည်။

သူ စိတ်ညစ်နေခြင်းဖြစ်သည်။

မရည်ရွယ်ထားဘဲနှင့် လူငယ်ပွဲတော်အတွက် ပဏာမရွေး
ယ်ခံရသည်။ နောက်ဆုံးအဆင့်ထိ ဆက်လက်ပြိုင်ရမည်ဖြစ်သည်။
ို့အတွက် ဘာလုပ်ရမှန်းမသိဖွာဖြင့် လမ်းလျှောက်နေရခြင်းဖြစ်သည်။

သူနှင့်အတူ ရွေးချယ်ခံရသူများမှာ ထူးချွန်သူများဖြစ်သည်။
ူကတော့ မထင်မှတ်ဘဲ ရွေးချယ်ခံရခြင်းဖြစ်သည်။ ဘာလုပ်ရ
လဲ။

ထိုသို့ရွေးချယ်ခံရပြီးပါက မဖြစ်မနေ လုပ်ရမည့်အရာတစ်ခု
ရှိနေသည်။ မေဂျာအတွင်း၌ သူ့ကို ထောက်ခံမှုများအောင်၊ လူကြိုက်များ
အောင် လုပ်ရန်ပင်ဖြစ်သည်။

ဒီပြိုင်ပွဲကို စိတ်မဝင်စားဘူးလား။

သူ့စိတ်က ထိုသို့လည်း မဟုတ်ပြန်။

သူများနည်းတူ ထိုလူငယ်ပွဲတော်ကို သူလည်း စိတ်ဝင်စားပါသည်။ ကျော်ဆောင်…။

သူနှင့်ယှဉ်ပြိုင်ရမည့်သူသည် မေရှာ၌ကင်းဖြစ်ပြီး ယောက်ျားလေး မိန်းကလေးများ၏ ကြိုက်နှစ်သက်ခြင်း ခံရသူတစ်ဦးဖြစ်သည်။

သူ ခေါင်းခါယမ်းလိုက်သည်။

ခြေထောက်များကလည်း ညောင်းလာသည်။

ထို့ကြောင့် အုတ်ခုံပုလေးတွင် ထိုင်ချလိုက်သည်။ သူ့ရှေ့တည့်တည့်တွင် စာကြည့်တိုက် အဆောက်အအုံသာရှိသည်။

ဘာမှလုပ်စရာမရှိ၍ သူ့မျက်လုံးများက စာကြည့်တိုက်ကိုပဲငေးကြည့်နေမိသည်။

စာကြည့်တိုက်၏ အနောက်ဖက်သည် လူရှင်းသောကြောင့် တစ်ခါတရံ အတွဲများကို တွေ့ရတတ်သည်။

ယနေ့တွင် မည်သည့်အတွဲမှ မရှိသောကြောင့် ကြီးမေတစ်ယောက်တည်းသာ အေးဆေးထိုင်နေနိုင်ခြင်းဖြစ်သည်။

ခေါင်းကို ငိုက်စိုက်ချထားမိသည်။ သူသည် မည်သည့်နည်းလမ်းဖြင့် ကျောင်းသား၊ ကျောင်းသူများကို စွဲဆောင်ရမည်နည်း။

သူတွေးသည်။

စဉ်းစားသည်။

ထိုစဉ်...

သူထိုင်နေသော အုတ်ခုံလေးပေါ်ရှိ မည်သူရေးထားမှန်းမသိသော စာသားလေးတစ်ခုအား ဖတ်မိသည်။



(၁၆)

အတန်းသားအားလုံးရှိနေသော ကင်တင်းရှိခုံတစ်ခုံတွင် ကျော်အောင်သည် အာပေါင်အာရင်းအသံဖြင့် စကားပြောနေသည်။

သူ့ဘေးတွင်လည်း လူတော်တော်များများ ဝိုင်းအုံနေသည်။

"မင်းတို့ ငါ့ကိုပဲ ထောက်ခံလိမ့်မယ်လို့ ငါယုံကြည်တယ်၊ ဘာဖြစ်လို့လဲဆိုတော့ ကြီးဖေဆိုတဲ့ကောင်က...××× ×××"

စသည်ဖြင့် ကျော်အောင်သည် ကျောင်းသား၊ ကျောင်းသူများ သူ့ဘက်ပါအောင် ဆွဲဆောင်နေလေသည်။ ထို့ပြင် ထိုကင်တင်းတွင် လည်း ယနေ့မှစ၍ သူတို့မေဂျာမှ လူများအပြင် အခြားမေဂျာမှ လူများသည်လည်း သူတို့၏ လူငယ်ပွဲတော် ရွေးချယ်ပွဲကြောင့် စိတ် ဝင်တစားနှင့် ဓာတုမေဂျာ၏ ကင်တင်းတွင် လာရောက်ထိုင်နေကြ သည်ကို တွေ့ရသည်။ ကျော်အောင်သည် စကားပြော ကောင်းသူတစ်ဦး ဖြစ်သောကြောင့် သူ့စကားတိုင်းကို အားလုံးက တဝါးဝါး၊ တဟားဟား နှင့် ပွဲကျနေလေတော့သည်။

တစ်ဖက်ဝိုင်းတွင် ထိုင်နေသောသူများက ကျော်အောင်

စကားပြောနေသောဝိုင်းကို တစ်ချက်တစ်ချက် လှမ်းကြည့်သည်။ ထိုဝိုင်းသည် ကြီးဖေအား ထောက်ခံချင်ပုံရသည့် ဝိုင်းဖြစ်သည်။

"ကျော်အောင်ကတော့ စည်းရုံးနေပြီကွ၊ ကြီးဖေ…ကြီးဖေလည်း ဘာသံမှမကြားရပါလား"

"အေး…ကြီးဖေ ပျောက်နေတယ်ကွ"

"သူ ဘယ်လိုလုပ်မလဲမသိဘူး၊ ငါတော့ ကြီးဖေကို အားမရပါဘူးကွာ"

တစ်ဖက်ဝိုင်းမှ ရယ်သံများ ထွက်ပေါ်လာသည်။

ကျော်အောင်က ကြီးဖေ အူကြောင်ကြောင်ဖြစ်ပုံကို သရုပ်ဆောင်ပြလိုက်၍ ဝိုင်းရယ်ကြခြင်းဖြစ်သည်။

"ဒါဆို လေးယောက်ထဲမှာ ကျော်အောင်က စပြီးလှုပ်ရှားတာပေါ့"

"ဟုတ်တယ်၊ ကောင်မလေးနှစ်ယောက်ကလည်း သူ့ဘာသာသူ အဆင်ပြေ…"

သူ၏စကားလုံးများသည် တိုးလို့တန်းလန်းဖြစ်သွားသည်။ မျက်လုံးများသည် ကင်တင်းအဝင်လမ်းသို့ ရောက်နေသည်။ အားလုံးက ထိုသူကြည့်ရာသို့ လိုက်ကြည့်လိုက်ကြသည်။

"ကြီးဖေ…ကြီးဖေပဲကွ"

အသံနည်းနည်းကျယ်သွားပုံရသည်။ ကျော်အောင့်စကားကို နားထောင်နေသော သူများပင်လှည့်ကြည့်ကြသည်။

အိပ်မက်အသစ်

အားလုံးက ကြီးဖေကို မြင်သွားပြီး တအံ့တသြဖြစ်သွားကြသည်။ ကြီးဖေသည် အရင်တုန်းကထက်ပိုပြီး သပ်သပ်ရပ်ရပ် ဝတ်ကာ လက်ထဲမှာလည်း တစ်စုံတစ်ခုကိုင်ထားသည်။



(၁၇)

ကြီးဖေသည် သူထိုင်နေကျခုံတွင် ဝင်ထိုင်သည်။ ထို့နောက်
က်ထဲကကိုင်လာသော အရာအား ခုံပေါ်တွင်ထောင်လိုက်သည်။
စာတန်းအချို့ရေးထားသော ကတ်ပြားလေးဖြစ်သည်။
ကင်တင်းထဲကလူများက ထိုကဒ်ပြားပေါ်ရှိစာများအား
လျှင်အမြန် ဖတ်မိကြသည်။

**စိတ်ညစ်စရာ မလိုပါဘူး။**
**ပြဿနာမျိုးစုံကို တတ်နိုင်သလောက် ဖြေရှင်း**
**ပေးပါမည်။**

အားလုံးမှာ ကြီးဖေ၏ အပြုအမူကို စိတ်ဝင်စားသွားသည်။
ကျောင်းသားတစ်ယောက်က စိတ်ဝင်တစားဖြင့် ကြီးဖေထိုင်နေသည့်
တွင် ဝင်ထိုင်လိုက်သည်။

**အိပ်မက်အသစ်**

"ကြီးဖေ"

"အေး…ပြောလေ"

"ဒါကြီးက ဘာအဓိပ္ပာယ်လဲကွ"

ဟုဆိုပြီး ကတ်ပြားကို လက်ညှိုးထိုးကာမေးလိုက်သည်။



(၁၈)

ထိုအချိန်တွင် ယေးယေးနှင့် သူ၏အဖွဲ့သည် စာအုပ်အချို့ကို ပိုက်ရောင်းနေလေသည်။

"စာအုပ်ဝယ်သွားပါဦး"

ယေးယေးသူငယ်ချင်းတစ်ဦးက ကောင်လေးတစ်ယောက်ကို ပိုက်ရောင်းနေသည်။

"ဘာစာအုပ်လဲ"

"ယေးယေးရဲ့ အတ္ထုပ္ပတ္တိပါ"

"ဟာ…တကယ်"

ကောင်လေးမှာ တအံ့တဩနှင့် စာအုပ်ကိုယူကြည့်သည်။ စာအုပ်မှာ သပ်သပ်ရပ်ရပ်လုပ်ထားပြီး ပုံနှိပ်ထားခြင်းဖြစ်သည်။ ဓာတ်ပုံများနှင့် ဝေဝေဆာဆာဖြစ်သည်။

"ဒီစာအုပ်ကို ဝယ်တဲ့သူက ယေးယေးစီစဉ်တဲ့ ပျော်ပွဲရွှင်ပွဲကို တက်ရောက်ခွင့်ရမယ်"

အိပ်မက်အသစ်

"ဟုတ်လား…ဘယ်မှာလုပ်မှာလဲ"

"ယေးယေးတို့အိမ်ရဲ့ ခြံထဲမှာ"

"ဒါဆို ဝယ်မယ်ဗျာ"

ထိုစာအုပ်ရောင်းချသည့် သတင်းမှာ အလျင်အမြန်ပျံ့နှံ့သွားပြီး တချို့က စိတ်ဝင်တစားနှင့် အလုအယက်လာဝယ်ကြသည်။

တချို့ကတော့ ယေးယေးကိုကြိုက်သော ကောင်လေးများဖြစ်သည်။ သူတို့မေဂျာအပြင် အခြားမေဂျာက သူများပါလာဝယ်ကြသည်။

ထိုစာအုပ်ထဲတွင် ယေးယေး၏ငယ်ဘဝ၊ အဖြစ်အပျက်အနည်းငယ်၊ အတွေးအခေါ်၊ အလှမာတ်ပုံစသည်ဖြင့် ဝေဝေဆာဆာဖော်ပြထားသည်။

ကျောင်းသား၊ ကျောင်းသူများမှာ ယေးယေး၏ စည်းရုံးရေးအိုင်ဒီယာကို သဘောကျသွားကြသည်။

ကျောင်း၌ နာမည်ကျော်တစ်ယောက်ဖြစ်သော ယေးယေး၏အကြောင်းကိုလည်း စိတ်ဝင်စားကြသည်မဟုတ်ပါလား။



(၁၉)

"ဥပမာ…မင်းမှာ ပြဿနာတစ်စုံတစ်ခု ရှိတယ်ဆိုပါစို့၊ ငါ့ကိုပြောပြ၊ အဲ့ဒီအခါမှာ ငါက တတ်နိုင်သလောက် စဉ်းစားပြီး ဖြေရှင်းပေးမယ်"

"ဪ…အဲ့ဒီလိုလား"

ကြီးဖေ၏အဖြေကို သဘောကျသွားသည်။

ထိုစဉ် စပ်စပ်စုစု ကောင်မလေးတစ်ယောက်က ကြီးဖေ့ခုံမှာ ဝင်ထိုင်လိုက်၏။

"ဒီလိုဆို ငါအရင်မေးမယ် ကြီးဖေ၊ ငါ့မှာ ပြဿနာလေး တစ်ခုရှိလို့"

"မေးပါ၊ ရပါတယ်"

ကင်တင်းရှိလူများမှာ ထိုကောင်မလေး ဘာမေးမလဲဟု စိတ်ဝင်စားသွားကြပြန်သည်။

ကြီးဖေကရော ဖြေရှင်းနိုင်မှာလား…။

အပိုင်းမကုန်သေးပါ

ကောင်မလေးပုံစံကလည်း ကြီးဖေကို ယုံကြည်လို့မေးတဲ့ ပုံစံမဟုတ်ပါဘူး…။ ပျော်စေပျက်စေဆိုတဲ့ သဘောမျိုးပါပုံရသည်။

“ငါ့ကို ကောင်လေးတစ်ယောက်က ရည်းစားစကား ပြောထားတယ်”

“အင်း”

ကောင်မလေးက ရှက်သလိုလို ဖြစ်နေသေးသည်။

ကြီးဖေကတော့ အေးဆေးပါပဲ…။ ခပ်တည်တည်နဲ့ နားထောင်နေ၏။

“ငါကလည်း သူ့ကိုချစ်ပါတယ်၊ ဒါပေမယ့် အဖြေပြန်မပေးရသေးဘူး”

“အဲဒီတော့”

“ငါ သူ့ကိုချစ်တယ်ဆိုတဲ့အဖြေ ပြန်ပေးချင်တယ်၊ ဒါပေမယ့် ငါ…ငါပြောရမှာ ရှက်နေတယ်”

ကောင်မလေးက ထိုစကားကို အသံတိုးတိုးလေး နှိမ့်ပြောခြင်းဖြစ်သည်။ သို့သော် အားလုံးကလည်း ကြားဖြစ်အောင်ကြားလိုက်သေးသည်။ ကောင်မလေးက ဆက်ပြောသည်။

“အဲဒါ ငါအဖြေလည်း ပြန်ပြောချင်တယ်၊ မျက်နှာချင်းဆိုင်လည်း မပြောချင်ဘူး”

ကြီးဖေက တစ်ခုသတိရသွားပြီး ချက်ချင်းဆိုသလိုပင်

“နင့်ကောင်လေးမှာ Handphone ရှိလား”

"ရှိတယ်"

"နင့်မှာလည်း Handphone ရှိတယ်ဆိုတော့ Message ပို့လိုက်ပေါ့ဟယ်၊ I Love You ဆိုပြီးတော့ပေါ့"

ကောင်မလေးမှာ မျက်မှောင်ကျုံ့သွားပြီး...

"ဟာ...နင့်နည်းလမ်းကြီးကလည်း ရိုးလိုက်တာ"

"သြော်...နင်က ဆန်းဆန်းလေးလည်း လိုချင်သေးတယ် ပေါ့"

"အေးပေါ့၊ ဒါမှ ကောင်းမှာလေ"

ကြီးဖေမှာ ခဏစဉ်းစားလိုက်ပြီး စာအုပ်ပေါ်တွင် အောက်ပါအတိုင်းချရေးလိုက်သည်။

4 4 4 5 5 5 6 6 6 8 8 8 3 3 9 9 9 6 6 8 8

ပြီးနောက် ရေးထားသောစာရွက်အား ကောင်မလေးဘက်သို့ ထိုးပေးလိုက်ပြီး...

"ရော့...ဒီဂဏန်းတွေရေးပြီး Message ပို့လိုက်"

ကောင်မလေးက ဂဏန်းများကို အူကြောင်ကြောင်ဖြင့် ကြည့်နေသည်။

တချို့ဝိုင်းက လူတချို့ကလည်း စိတ်ဝင်စားပြီး ထကြည့်ကြသည်။

"ဘာ...ဘာအဓိပ္ပာယ်လဲဟ"

"I Love You လို့ ရေးထားတာလေ"

"ဟင်…နင့်ဟာကလည်း ဟုတ်လည်းမဟုတ်ဘဲနဲ့"

ကြီးဖေက ကောင်မလေးလက်ထဲမှဖုန်းကို ခဏထောင်းလိုက်သည်။

"Message ရေးတဲ့အခါမှာ I ရေးဖို့အတွက် 4 ဆိုတဲ့ ဂဏန်းကို သုံးခါနှိပ်ရတယ်မဟုတ်လား"

"အင်း…ဟုတ်တယ်"

"ဒါဆို L ကိုရေးဖို့အတွက် 5 ကို သုံးခါနှိပ်ရမှာပေါ့၊ ဒီလိုပဲ ကျန်တဲ့ဂဏန်းတွေကို ရေးရတာလေ၊ I Love You ဆိုတဲ့ စာသားရောက်ဖို့ ဒီဂဏန်းတွေကို အရေအတွက်အတိုင်း နှိပ်ရမှာပဲလေ"

"ဟာ…အေး၊ ငါသဘောပေါက်ခါနီးပြီ"

ထိုကောင်မလေးက ကြီးဖေရေးထားသော ဂဏန်းများ အောက်တွင် အောက်ပါအတိုင်း ထပ်ရေးလိုက်သည်။

444 555 666 888 33 999 66 88

I L O V E Y O U

ကြီးဖေက ခေါင်းညိမ့်ပြသည်။

ကောင်မလေးမှာ သဘောကျသွားပြီး ဖုန်းကိုဖွင့်ပြီး Message ရေးကာ သူ့ကောင်လေးဆီသို့ ပို့လိုက်လေ၏။

"ကျေးဇူးပဲ ကြီးဖေ၊ ငါနင့်ကိုပဲ ထောက်ခံတယ်"

ဟုဆိုပြီး ပျော်ပျော်ရွှင်ရွှင်ဖြင့် ထွက်သွားလေသည်။

ကင်တင်းထဲတွင် ထပ်မံငြိမ်သက်သွားပြန်သည်။

**အိပ်မက်အသစ်**

အားလုံးက ကြီးဖေကို တအံ့တသြဖြင့် ကြည့်နေကြခြင်း ဖြစ်သည်။ ထိုစဉ်မှာပဲ ကြီးဖေထိုင်နေရာခုံသို့ ကောင်လေးတစ်ယောက် ဝင်ထိုင်လေသည်။

"ကြီးဖေ…ငါလည်း ပြဿနာနည်းနည်းရှိလို့"

"ပြောပါ၊ ရပါတယ်"

ထိုကောင်လေးကလည်း ကြီးဖေကို သိပ်ယုံချင်ပုံမရပါဘူး။

ရေကတစ်ယောက်အတွက် ဖြေရှင်းလိုက်ပုံကို သဘောကျ၍ ဝင်မေးခြင်းဖြစ်ပုံရသည်။

"ငါနဲ့သုံးနှစ်လောက် ခင်လာတဲ့သူငယ်ချင်းတစ်ယောက်ကို ငါကြိုက်မိနေတယ်"

"အင်း"

"သူ့မှာပြီးခဲ့တဲ့ နှစ်လလောက်ကမှ ကြိုက်နေတဲ့ရည်းစား ရှိနေတယ်ဆိုတာကိုလည်း ငါသိနေတယ်"

"ဒီတော့"

"တစ်နေ့ ငါလည်းမခံနိုင်တဲ့အဆုံး သူ့ကိုချစ်ကြိုက်ကြောင်း ဖွင့်ပြောမိတယ်"

ကြီးဖေ ငြိမ်ပြီးနားထောင်နေလိုက်သည်။

သူကပဲ ဆက်ပြောသည်။

"သူက ငါ့ကိုပြန်ပြောတယ်"

"ဘာပြောတာလဲ"





"ငါ့ကိုလည်းချစ်ချင်တယ်၊ သူ့ရည်းစားကိုလည်း မဖြတ်ချင်ဘူးတဲ့"

"ဟာ"

အားလုံး၏ သူ၏ပြဿနာကို စိတ်ဝင်စားလာကြပြီး ဘာမှမပြောမိကြဘဲ နားထောင်နေကြသည်။

"သူ့ရည်းစားနဲ့ပြတ်တဲ့အထိ ငါဆက်တွဲရမှာလား၊ ဒါမှမဟုတ် ငါသူ့ကို မေ့လိုက်ရမှာလား၊ ငါဘာလုပ်ရမလဲ ကြီးဖေ"

ထိုသူမှာ မျက်ရည်များ ဝဲတက်သွားသည်။

ကြီးဖေနှင့်အတူ အားလုံးမှာ စိတ်မကောင်းဖြစ်သွားကြသည်။ ကြီးဖေက ဘာပြန်ပြောမလဲဆိုပြီး မျှော်လင့်တကြီးနှင့် နားထောင်နေသည်။

"အဲဒါ ငါ့ကိုပြောပါဦး၊ ငါဘာလုပ်ရမလဲ"

ကြီးဖေက ခေါင်းခါရမ်းလိုက်သည်။ ပြီးနောက်

"အဲ့ဒီကောင်မလေးရဲ့ လုပ်ရပ်ဟာ သူ့ရဲ့ပုံစံကို ဖော်ပြနေတာပဲ၊ မင်းနဲ့အတူရှိရင် သူက မင်းကိုဘယ်လိုဆက်ဆံလဲ"

ကြီးဖေအမေးကို ထိုသူက ဘာမှပြန်မဖြေဘဲ ခေါင်းခါသည်။ မသိဘူးဆိုတဲ့ သဘောပါ။

"ထားတော့၊ မင်းနဲ့တွေ့ရင် သူက ချစ်သူရည်းစားလို ဆက်ဆံမယ်၊ အဲ အခြားသူ့ရည်းစားနဲ့တွေ့ရင်လည်း မင်းနဲ့ဆက်ဆံသလိုပဲ ဆက်ဆံမှာပဲ"

နားထောင်နေသောသူများက ခေါင်းငြိမ့်ထောက်ခံကြသည်။

"ဒါဆို အဲ့ဒီကောင်မလေးက မင်းကို ကစားနေတာပဲ"

"ငါ…ငါမသိတော့ပါဘူး ကြီးဖေရာ"

"ဒီလိုလုပ်"

"အေး…ဘယ်လိုလုပ်ရမှာလဲ"

ထိုသူမှာ အားတက်သရောနှင့် ခေါင်းပြန်ထောင်လာသည်။

"သူ့ဆီသွားပြီး ဒီလိုအရင်ပြောကြည့်"

"ဘယ်လိုပြောရမှာလဲ"

"ငါမင်းနဲ့အတူ သမီးရည်းစားလို နေနေတဲ့အချိန်မှာ အခြားရည်းစားအတွက် ကိုယ်ချင်းစာမိတယ်လို့ အရင်ပြောပါ"

"ပြီးတော့"

"ပြီးတော့ သူ့ကို သွားမတွေ့ပါနဲ့တော့၊ ရက်အနည်းငယ်လောက် သူ မင်းကိုသတိရနေအောင် ထားထားလိုက်ပါ၊ အကယ်၍များ သူက မင်းကိုတကယ်ချစ်တယ်ဆိုရင် မင်းဆီကိုပဲ ပြန်လာပါလိမ့်မယ်။ အကယ်၍များ မလာခဲ့ဘူးဆိုရင်တော့ ဘယ်လိုနည်းနဲ့မှ မင်းကို ချစ်တာ မဖြစ်နိုင်ပါဘူး။ အဲ့ဒီကျရင် သူ့ကိုမေ့ပစ်တာ အကောင်းဆုံးပဲ ဖြစ်ပါလိမ့်မယ်"

ထိုသူက ကြီးဖေကို ဆွေးမြေ့သောမျက်လုံးများဖြင့် ကြည့်နေသည်။

"ငါလည်း အဲ့ဒီနည်းအကောင်းဆုံးပဲလို့ ထင်မိပါတယ် သူငယ်ချင်း"

ထိုသူက ကြီးဖေကို လက်ဆွဲနှုတ်ဆက်သည်။ ကြီးဖေ
ကလည်း ပြန်နှုတ်ဆက်၏။

"ငါ…အဲ့ဒီလိုပဲ လုပ်ကြည့်လိုက်မယ် ကြီးဖေ၊ ငါမင်းကိုပဲ
ထောက်ခံတော့မယ်"

ထိုသို့ ပြောပြီးပြီးချင်းပင် သူ့လွယ်အိတ်လေးကိုယူကာ
ကင်တင်းထဲမှ ထွက်သွားပြန်သည်။

ခဏအကြာတွင် နောက်ထပ်တစ်ယောက်သည် ကြီးဖေရှေ့
သို့စာလေးတစ်စောင် လာထိုးပေးသည်။

ကြီးဖေကစာကိုယူလိုက်ပြီး…

"ဘာ ဘာဖြစ်လို့လဲ"

"ငါ့ပြဿနာက သူများတွေရှေ့မှာ ပြောလို့ရတဲ့ဟာ မဟုတ်
လို့ပါ၊ စာနဲ့ရေးပေးတာပါ၊ အေးအေးဖတ်ပြီး စဉ်းစားပေးပါ ကြီးဖေ၊
နည်းလမ်းတွေ့ရင်လည်း ငါ့ကို စာနဲ့ပဲပြန်ရေးပေးပေါ့"

ကြီးဖေ ခေါင်းငြိမ့်ပြလိုက်သည်။ ထို့နောက် စာအား လွယ်
အိတ်ထဲထည့်လိုက်သည်။

ဤတွင် နောက်တစ်ယောက်ထလာပြီး စာတစ်စောင်လာ
ပေးပြန်သည်။

ထိုသို့ဖြင့် ကင်တင်းရှိ နှုတ်ဖြင့်မပြောချင်သော်လည်း ပြဿနာ
ဖြေရှင်းသည့်နည်းလမ်းကို သိချင်သောလူများ၏ စာများသည် ကြီးဖေ
ရှေ့သို့ တဖွဲဖွဲရောက်လာကြလေသည်။



(၂၀)

ကြီးဖေ၏ ဖြေရှင်းချက်များကို နားထောင်နေကြသော သူများကို ကြည့်ပြီး ကျော်အောင်တင်းသွားသည်။

ကင်တင်းတစ်ခုလုံးလိုလိုပင် ကြီးဖေဘက်သို့ ပါနေပြီဟု ရိပ်မိလိုက်သည်။

သူဘာလုပ်ရမလဲ။

သူ၏သူငယ်ချင်းဖြစ်သော မိုးထောင်နှင့် ရန်လင်းနောင်ပင် သူ့ကို ကြည့်နေသည်။ သူဘာလုပ်မလဲဟု ကြည့်နေကြခြင်းဖြစ်သည်။

သူလည်း လူစိတ်ဝင်စားအောင် တစ်ခုခုလုပ်ရတော့မည်။

သူ ထိုင်ရာမှထလိုက်သည်။ ထို့နောက် ကြီးဖေကို တစ်ချက်ကြည့်လိုက်ပြီး သူ့သူငယ်ချင်းများကိုခေါ်ကာ ကင်တင်းထဲမှ ထွက်လိုက်သည်။ သူ့ကို ထောက်ခံသူများဖို့အတွက် အလှည့်အပြောင်းတစ်ခုတော့ လုပ်ရပေမည်။



(၂၁)

စာများကို ဖတ်နေရင်းမှ သူ့ရှေ့တွင် လူတစ်ယောက်လာ ရပ်နေသောကြောင့် မော့ကြည့်လိုက်သည်။

"ဝတ်ရည်မွန်ပါလား"

ပဏ္ဍာမရွေးချယ်ခံရသော ဝတ်ရည်မွန်ဖြစ်နေသည်။

ဝတ်ရည်မွန်က ကြီးမေရှေ့တွင် ဝင်ထိုင်သည်။

"ငါ...ဘာအကူအညီပေးရမလဲ"

"နင့်ကို ပြောစရာရှိလို့"

"အေး...ပြောလေ"

"နင်သိတဲ့အတိုင်းပဲ ငါက အေးအေးဆေးဆေးပဲ နေလေ့ရှိတာပါ"

"အင်း...ဟုတ်တယ်လေ"

"အခုကိစ္စ ရွေးချယ်ခံရတာလည်း တိုက်ဆိုင်သွားပြီး ရွေးချယ်ခံရတာပါ"

"နင်တော်တာလည်း ပါပါတယ်"

ကြီးဖေစကားကို ဝတ်ရည်မွန်က ဘယ်လိုမှပြန်မပြောပေ။ သူ့စကားကိုပဲ ဆက်ပြောသည်။

"အဲဒါ ငါအခုဒုက္ခရောက်နေတယ်"

"ဘာဖြစ်လို့လဲ"

"ဒီလို ရွေးချယ်ခံရပြီဆိုတော့ ငါ့မှာလည်း ထောက်ခံမှုတွေ ရဖို့အတွက် လူစိတ်ဝင်စားအောင် လုပ်ရတော့မယ်"

"အင်း...ဟုတ်တယ်"

"ဒါပေမယ့် ငါဘယ်လို နည်းနဲ့ဆွဲဆောင်ရမယ်ဆိုတဲ့ နည်း လမ်းမရှိသေးဘူး"

"ဟာ..."

ကြီးဖေ စိတ်ညစ်သွားသည်။

သူတောင်မှ သူ့နည်းလမ်းကို မနည်းရှာထားရခြင်းဖြစ်သည်။ သို့သော်လည်း ပြဿနာများကို ဖြေရှင်းပေးမည်ဟု ဆိုထားသော ကြောင့် ဒုက္ခရောက်နေပြန်သည်။

"အဲဒါ ငါဘယ်လိုလုပ်ရမလဲ ကြီးဖေ"။

ပြီးတော့....

ယေးယေးကိုလည်း အနိုင်ရချင်တယ်။

ကြီးဖေ ခေါင်းစားသွားသည်။

ထိပ်ပေါက်အသစ်

သူတို့နှစ်ယောက် ပြောနေချိန်တွင် ကင်တင်း၌ လူရှင်းနေသည့်အချိန်ဖြစ်နေသည်။

သူတို့နှစ်ယောက်အပြင် အခြားဝိုင်း၌ အတွဲတစ်တွဲသာရှိနေသည်။ သူမကလည်း ထိုအချိန်ကိုမှ ရွေး၍ သူ့ထံလာပုံရသည်။

ကြီးဖေက လက်ဖက်ရည်တစ်ငုံ သောက်လိုက်သည်။

ထို့နောက် လက်ဖက်ရည်ခွက်ကိုချလိုက်ရင်းမှ ဝတ်ရည်မွန် ကိုင်ထားသော လက်ဆွဲအိတ်ကို သတိထားမိကာ အကြံတစ်ခုရသွားသည်။



(၂၂)

ယေးယေးသည် အတန်းထဲရှိ ခုံလွတ်တစ်ခုထဲတွင် ဝင်ထိုင်
ိုက်သည်။ သူ့သူငယ်ချင်းနှစ်ယောက်ကလည်း သူ့ဘေးတွင် ဝင်ထိုင်
ါ။

"စာအုပ်တွေတော့ ကုန်သွားပြီ ယေးယေး"

"ဒီလိုဆိုရင်တော့ ငါ့အကြောင်းကို လူတော်တော်များများ
ိသွားလောက်ပါပြီ"

"ငါတို့ ဒီပိုက်ဆံတွေကို ဘယ်လိုလုပ်ရမှာလဲ"

ယေးယေးသူငယ်ချင်း မိသိမ့်က မေးလိုက်သည်။

"ငါ့ခြံထဲမှာ ပါတီလုပ်တဲ့အခါကျရင် လာတဲ့လူအားလုံးကို
ကျွေးမွေးဖို့ ပစ္စည်းတွေဝယ်မယ်လေ"

"ဟာ…အေး၊ ကောင်းတယ်"

သစ်

မိသိမ့်နှင့်ဖြူဖြူမှာ ယေးယေး၏အကြံကို သဘောကျသွားသည်။

"ဘာပဲပြောပြော မိန်းကလေးထဲမှာ နင်ပဲရွေးခံရမှာပါ၊ ရုပ်လည်းချောတယ်၊ ပညာလည်းတတ်တယ်ဆိုတော့"

ယေးယေးသဘောကျသွားသည်။

မိသိမ့်ကလည်း ဖြူဖြူစကားကို ထောက်ခံလိုက်ရင်း တစ်ဦးတစ်ယောက်ကို သတိရသွားသည်။

"ဝတ်ရည်မွန်ရော ဘာလုပ်နေလဲမသိဘူးနော်"

မေးလည်းမေးရင်းနဲ့ ယေးယေးကို တစ်ချက်ကြည့်လိုက်ကြသည်။ ယေးယေးကတော့ အေးဆေးပင်…။

စိတ်ပူပယ်သည့် အရိပ်အရောင်ပင် မတွေ့ရချေ…။

"သူဘာယ်လိုပဲလုပ်လုပ်၊ ငါကျော်ဖြတ်နိုင်ပါတယ်"

ဟုဆိုလိုက်ပြီး သူ၏မှတ်စုစာအုပ်ကိုထုတ်ကာ ဆက်လုပ်ရာရှိသည်များကို မှတ်သားနေလိုက်သည်။

❐



(၂၃)

"နင့်မှာ laptop ရှိတယ်မဟုတ်လား"

ကြီးမေက ဝတ်ရည်မွန်ကို မေးလိုက်သည်။

"အေး...ရှိတယ်လေ၊ ဘာလုပ်မလို့လဲ"

"ငါ့မှာ Software လေးတစ်ခုရှိတယ်"

"ဘာ Software လဲ"

"မွေးသက္ကရာဇ်သိရုံနဲ့ အဲ့ဒီလူရဲ့ စိတ်နေသဘောထားကို အနီးစပ်ဆုံးသိနိုင်တဲ့ ဗေဒင် Software လိုဟာမျိုးပါ"

"အဲ့ဒါနဲ့ ငါကဘာလုပ်ရမှာလဲ"

ကြီးမေက သေချာရှင်းပြရသည်။

"ပထမဆုံး နင်သတင်းလွှင့်လိုက်"

"အေး...ဘယ်လိုလွှင့်ရမှာလဲ"

"ကိုယ့်ကိုယ်ကိုယ် (သို့) ကိုယ့်ချစ်သူရဲ့ စိတ်နေသဘောထား အနီးစပ်ဆုံးသိလိုပါက မြူလုပ်ပေးပါသည်ပေါ့"

"အေး မဆိုးဘူးဟ"

"ဒါ့အပြင် ကိုယ့်ချစ်သူနဲ့လက်ထပ်နိုင်ဖို့ ဘယ်လောက်ရာခိုင်နှုန်းလောက်ရှိလဲ ဆိုတာပါ တွက်လို့ရတယ်"

"ဟုတ်လား"

"ဒါပေမယ့် အဲဒီတစ်ခုတော့ မတွက်ပေးနဲ့"

"ဘာဖြစ်လို့လဲ"

"အကယ်၍များ တွက်လို့ ညားဖို့ရာခိုင်နှုန်းနည်းနေရင် သူတို့ပြဿနာတက်တာ နင့်ကြောင့်ဆိုပြီး မထောက်ခံဘဲ နေဦးမယ်"

"အေး...ဟုတ်တယ်နော်၊ ဒါနဲ့ နင့်ဟာကရော မှန်ပါ့မလား"

"တော်တော်တော့ မှန်တယ်ဟ၊ ငါစမ်းပြီးပြီ"

"အေး...ဒါဆိုလည်း ငါလုပ်မယ်ဟာ"

"အဲ့ဒါဆိုရင် နင့်ဆီ လူတော်တော်များများ လာကြလိမ့်မယ်၊ မှန်သွားရင်လည်း ထောက်ခံဖို့အတွက် အခွင့်အရေးရတာပေါ့၊ ပြီးတော့...ကွန်ပျူတာက အဲ့ဒီလူရဲ့ စိတ်နေသဘောထားကို ထုတ်ပေးတဲ့အခါ အင်္ဂလိပ်လိုဖြစ်နေတယ်"

"ဒါဆိုငါက မြန်မာလိုပြန်ရဦးမှာပေါ့"

"နင်က အင်္ဂလိပ်စာရတာပဲ ပြန်ပေးရမှာပေါ့"

ဝတ်ရည်မွန်က ခေါင်းငြိမ့်ပြလိုက်သည်။

မျက်နှာက ခုနကမျက်နှာနှင့် မတူတော့ချေ။ နည်းလမ်းရသွား၍ ပျော်ရွှင်နေသည့် အမူအရာပြောင်းသွားသည်။

**အိပ်မက်အသစ်**

နောက်တစ်နေ့တွင် ဝတ်ရည်မွန်သည် အခန်းထဲ၌ laptop တစ်လုံးနှင့် ရှုပ်နေတော့သည်။

သူဆီကမေးသော အတန်းဖော်တစ်ယောက်၏ ထောက်ခံမှုဖြင့် ဝတ်ရည်မွန်ပြောပြချက်က မှန်သည်ဟူသော သတင်းမှာ တစ်ကျောင်းလုံးသို့ ပျံ့နှံ့သွားသည်။

ဝတ်ရည်မွန်လည်း မအားမလပ်နိုင်အောင် အလုပ်ရှုပ်သွားသည်။

ထိုစဉ် ဝတ်ရည်မွန်အား ကျောင်းသူသုံးယောက်က ရှုးရှူးရိုက်ရိုက်ကြည့်နေသည်။

''ယေးယေး သူဟာက တော်တော်မှန်လားမသိဘူးနော်''

ယေးယေးက မိသိမ့်ကို တစ်ချက်လှည့်ကြည့်လိုက်သည်။ မိသိမ့်ပါးစပ်ပိတ်သွားလေသည်။

*မှတ်ချက် ။ ။ ဝတ်ရည်မွန်အသုံးပြုသော Software မှာ အမှန်တကယ်ရှိပါသည်။*

စာရေးသူ



ဤသို့ဖြင့်...မကျွာ၏လူငယ်ပွဲတော်ရွေးချယ်ပွဲသည်
မကျွာအားလုံး၏စိတ်ဝင်စားစရာတစ်ခုဖြစ်လာခဲ့သည်။
ထိုမကျွာ၏ရွေးချယ်ပွဲကိုအကြောင်းပြုပြီး
လေ့လာရေးအဖွဲ့ဆိုပြီးအပျော်တမ်းအဖွဲ့တစ်ဖွဲ့ပေါ်ပေါက်
လာပြန်သည်။
ထိုအဖွဲ့သည်ကျောင်းသားကျောင်းသူများ၏
သဘောတရားအမှက်အလက်များကို
ကောက်ယူသောအဖွဲ့ဖြစ်သည်။



ရက်အနည်းငယ်ကြာသောအခါတွင်
ထိုအဖွဲ့၏လှေ့လာချက်များအားဖော်ပြထားသော
သတင်းကို
ကျောင်း၏ကြော်ငြာသင်ပုန်း၌
အားလုံးတွေ့ကြရလေသည်။

နိုဝင်ဘာ ၁၅ ရက်…။

ကျွန်တော်တို့လေ့လာရေးအဖွဲ့၏ နိုဝင်ဘာ ၁၅ ရက်နေ့အထိ လှုယ်ပွဲတော် ရွေးချယ်ပွဲဖြစ်နိုင်ချေ ရာခိုင်နှုန်းများအား ဖော်ပြအပ်ပါသည်။

ကြီးဖေ - ၆၀%

ကျော်အောင် - ၅၀%

ဝတ်ရည်မွန် - ၄၇%

ယေးယေး - ၄၅%

တို့ဖြစ်ပါသည်။

အထက်ပါဆန္ဒသည် မေဂျာတစ်ခုတည်း၏ ဆန္ဒမဟုတ်ဘဲ ကျောင်းတစ်ကျောင်းလုံး၏ ရာခိုင်နှုန်းဆန္ဒဖြစ်ပါသည်။

သို့သော် နောက်ဆုံးရက် မရောက်သေးသောကြောင့် ၄င်းတို့၏ စိတ်ဝင်စားမှုအပေါ်" မူတည်၍ အပြောင်းအလဲရှိနိုင်ပါသည်။

လေ့လာရေးအဖွဲ့

(၂၄)

"ကြီးဖေက သာနေတာပဲကွ"

"အေး...ထင်တောင်မထင်ရဘူး"

"ဘာပဲပြောပြော ကြီးဖေ နည်းတွေက မိုက်တယ်ကွ"

ကြော်ငြာသင်ပုန်းရှေ့တွင် ပြောနေကြသော ကျောင်းသား နှစ်ယောက်၏ စကားသံများ တိတ်သွားသည်။

မည်သို့ဆိုသော် ကျော်အောင်ကိုတွေ့လိုက်ရသောကြောင့် ဖြစ်သည်။ ကျော်အောင်သည် သူတို့နောက်တွင် ရပ်နေကာ ကြော်ငြာ သင်ပုန်းရှိစာအား စူးစိုက်ဖတ်နေသည်။

ထို့နောက် ခေါ်သံထွက်သွားပြီး စာအားစုတ်ဖြဲကာ

"သွား...အလကားတွေ၊ ဘာမှမှန်တာမဟုတ်ဘူး"

ဟု အော်ဟစ်လိုက်သည်။

ပြီးနောက် စာရွက်ကို လုံးချေ၍လွှင့်ပစ်ပြီး ကြော်ငြာသင်ပုန်း ရှေ့မှ အလျင်အမြန်ထွက်သွားလေသည်။



(၂၅)

ယေးယေးသည် ကျောင်းသား၊ ကျောင်းသူများ မရှိသော
ခန်းလွတ်တစ်ခုတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်နေသည်။

မိသိမ့်နှင့်ဖြူဖြူကတော့ သူ့ကိုပဲကြည့်နေရသည်။

"ယေးယေး နင်ဘာလုပ်မလဲ"

ဖြူဖြူက မရဲတရဲလေး ဝင်ပြောသည်။

"ဝတ်ရည်မွှန်နဲ့ငါက အခု ရာနိုင်နှုန်းက သိပ်မကွာပါဘူး"

"ဟုတ်တော့ဟုတ်ပါတယ်၊ ဒါပေမယ့် သူကသာလာနိုင်တဲ့
အခြေအနေတွေ ရှိလာနိုင်သေးတယ်နော်"

ဒီတစ်ခါတော့ ယေးယေးက ခေါင်းငြိမ့်ပြီး ထောက်ခံသည်။

"သူတစ်ယောက်တည်း အကြံဉာဏ်တွေတော့ မဖြစ်နိုင်
ဘူး"

"ဘယ်လို...ယေးယေး၊"

"ဒီလိုလုပ်နိုင်တာ ဝတ်ရည်မွန်တစ်ယောက်တည်း အကြံဉာဏ်တွေတော့ မဟုတ်ဘူးလို့"

မိသိမ့်က ကြားဖြတ်ဝင်ပြောသည်။

"သူ့နဲ့ ကြီးဖေကို ဟိုတစ်နေ့က ကင်တင်းမှာစကားပြောနေတာ တွေ့ရတယ်"

"ဒါဆို ကြီးဖေက အကြံဉာဏ်တွေ ပေးနေရတာဖြစ်ရမယ်"

"ဟုတ်တယ်၊ နင်ထင်တာဖြစ်နိုင်တယ်"

ယေးယေးသည် အံတစ်ချက်ကြိတ်လိုက်သည်။

သူသည် ကြီးဖေကို အရင်ကတည်းက အထင်မကြီးချေ။

အခုလည်း အထင်မကြီးပါ။

သို့သော်...ယခု ကြီးဖေကို သွားတွေ့ရတော့မည်။



(၂၆)

ကြီးဖေသည် တော်တော်လေးကို စိတ်ညစ်နေသည်။ ပြဿနာများစွာကို စဉ်းစားရဖြေရှင်းရသောကြောင့် စိတ်များလေးလံနေခြင်းဖြစ်သည်။

စမိသည့်ကိစ္စဆိုတော့ ဆုံးအောင်တော့ ပြုလုပ်ရပေမည်။ နေ့လည်း စာကြည့်တိုက်သို့ ထွက်လာခဲ့ခြင်းဖြစ်သည်။ လမ်းမှာတွေ့သော လူတော်တော်များများက ကြီးဖေကို နှုတ်ဆက်ကြသည်။

ယခင်က ကြီးဖေကိုမသိသောသူများပင် ကြီးဖေကို အရေးတယူနှုတ်ဆက်ကြသည်။

ကြီးဖေလည်း ပြုံးပြုံးနှင့် စာကြည့်တိုက်ဘက်သို့ လမ်းဆက်လျှောက်လာခဲ့သည်။

ထိုသို့ဖြင့် တစ်နေရာအရောက်တွင်

အိပ်မက်အသစ်

"ဟာ…ဒုက္ခပဲ"

သူရှေ့တည့်တည့်မှ ယေးယေးတို့အဖွဲ့ လျှောက်လာခြင်းဖြစ်သည်။ ယေးယေးကိုတော့ သူကြောက်သည်။ သိပ်ထက်မြက်တဲ့ မိန်းမဟုဆိုပြီး တော်တော်လေးကို အထင်ကြီးနေမိသည်။ သူ ယေးယေးကို မမြင်ချင်ယောင်ဆောင်နေလိုက်သည်။

သို့သော်…

ယေးယေးက သူ့ဆီသို့ တန်းတန်းမတ်မတ်ကြီး တိုးဝင်လာသည်။

"ကြီးဖေ"

ကြီးဖေမှာ မျက်စိမျက်နှာပျက်စွာဖြင့်

"ဟဲ…ဟို၊ ယေးယေးပဲ"

"ငါ နင့်ကိုလိုက်ရှာနေတာ"

"ငါ့ကို၊ ဘာ…ဘာလုပ်မလို့လဲ"

ယေးယေးက မပွင့်တပွင့်လေး ပြုံးလိုက်သည်။

"ဘာမှမလုပ်ပါဘူး၊ ငါစာအုပ်လေးလာပေးတာပါ"

ယေးယေးက ပြောရင်းဆိုရင်း စာအုပ်လေးတစ်အုပ် ထုတ်ပေးသည်။

သူ၏ Biography စာအုပ်လေးဖြစ်သည်။

"ငါ့ပါတီပွဲနေ့ကို လာခဲ့ပါဦး၊ ကျော်အောင်နဲ့ဝတ်ရည်မွန်တို့လည်း ဖိတ်ထားတယ်"

**အိပ်မက်အသစ်**

သူ ခေါင်းငြိမ့်ပြလိုက်လားဆိုတာကို သူကိုယ်သူ သတိမထား မိလိုက်ပါ။ ယေးယေးကတော့ ထိုသို့ပြောပြီးပြီးချင်း သူ့ရှေ့မှ ထွက်သွားလေတော့သည်။

သူကတော့ ယေးယေး၏မျက်နှာဖုံးပုံကိုကြည့်ရင်း ကျန်ရစ်ခဲ့လေသည်။

အိပ်မက်အသစ်

(၂၇)

ကျယ်ဝန်းလှသော ခြံကြီးတစ်ခုထဲတွင် ရောင်စုံမီးများဖြင့် ထိန်ထိန်လင်းနေသည်။

ခြံထဲတွင် စားပွဲများရှိနေပြီး စတိတ်စင်တစ်ခုကိုလည်း ဆောက်လုပ်ထားသည်။

စားသောက်ဖွယ်ရာများကိုလည်း ဘူဖေးစနစ်ဖြင့် အမျိုးစုံ လင်စွာ ပြုလုပ်ထားသည်။

မိုက်ကရိုဖုန်းနှင့် ဆောင်းဘောက်စ်များ၊ သစ်ပင်ပေါ်ရှိ မီးတန်းလေးများက ဒီပွဲလေးကို နိုးကြွစေလေသည်။

ဟုတ်ပါသည်။ ဤခြံဝန်း၌ ကျင်းပနေသောပွဲသည် ယေးယေး၏ပါတီပွဲဖြစ်ပါသည်။

"ယေးယေးက တော်တော်ချမ်းသာတာပဲနော်"

"အင်းလေ၊ ဆွေစဉ်မျိုးဆက် ချမ်းသာလာတာပဲလို့ ပြောတာပဲ"

စသည့် တစ်ယောက်တစ်ခွန်းပြောသံများဖြင့် ပါတီပွဲက လူများစွာဖြင့် စည်ကားနေသည်။

လူများကလည်း ဟိုလူ့စကားပြော၊ ဒီလူ့စကားပြောဖြင့် မတ် တပ်ရပ်ကာ စားသောက်စကားပြောနေကြသည်။

ကျော်အောင်ကတော့ တစ်နေရာတွင် ကျောင်းသူတစ်ဖွဲ့နှင့် လေပေးဖြောင့်နေသည်။

"ကျွန်တော့်ကိုပဲ မဲပေးရမှာနော်"

"ပေးမှာပေါ့၊ တို့မှာ ဒီတစ်ယောက်ပဲရှိတာ"

ကျော်အောင်၏ ပြုံးဖြီးဖြီးမျက်နှာကို အဝေးကပင်လှမ်းမြင် နိုင်သည်။

ဝတ်ရည်မွန်ကတော့ တစ်နေရာတွင် ကောင်မလေးသူငယ်ချင်း တစ်စုနှင့် စကားပြောနေသည်။

ယေးယေး…။

ယေးယေးကိုတော့ ပါတီပွဲအတွင်း မတွေ့ရသေးချေ…။

"ယေးယေးလည်း မတွေ့ပါလား"

ကျောင်းသားတစ်ယောက်က အခြားတစ်ယောက်ကို မေး လိုက်သည်။

"လာမှာပေါ့၊ သူ့အိမ်ထဲမှာပဲ ရှိလိမ့်မယ်"

"အဟီး…ငါက တွေ့ချင်နေပြီကွ"

အခြားတစ်ယောက်က ထိုကျောင်းသားကို မျက်မှောင်ကုပ် ကြည့်သည်။

သူလည်းအတူတူပဲ ဆိုသည့် သဘောဖြစ်ပုံရသည်။

"ယေးယေးကိုသာ မတွေ့ဘူးပြောနေတာ၊ ကြီးဖေကိုရော တွေ့လို့လား"

"အေး…ဟုတ်ပါရဲ့၊ ကြီးဖေကိုလည်း မတွေ့ဘူး"

"သူ့ကို ဖိတ်ထားလို့လား"

"ယေးယေးကိုယ်တိုင် ဖိတ်လိုက်တယ်လို့တော့ ကြားတာပါ"

သူတို့နှစ်ယောက်မှာ ပြောလည်းပြော ကြီးဖေကိုလည်း လိုက်ရှာနေ ဖြစ်နေသည်။

ထိုစဉ်…

အိမ်ဘက်ဆီမှ တံခါးပွင့်သွားသည်။

"ဟာ"

အားလုံးငေးသွားရသည်။

ထို့ပြင် အားလုံးကြွေဆင်းရလောက်အောင်လည်း လှပနေသော ယေးယေးကိုတွေ့လိုက်ရသည်။

ပြင်ဆင်ထားပုံ ဝတ်စားထားပုံမှာ သူမတူအောင်လှပနေသည်။ အားလုံး၏အကြည့်များသည် သူမဆီက မခွာနိုင်အောင် ဖြစ်သွားကြသည်။ ဝတ်ရည်မွန် ခေါင်းငိုက်စိုက်သွားသည်။

ယခုပွဲ ကျင်းပရခြင်းရည်ရွယ်ချက်ကို ရိပ်မိလိုက်သောကြောင့် ဖြစ်သည်။

အိပ်မက်အသစ်

“ယေးယေးကတော့ ထောက်ခံမှုရာခိုင်နှုန်းတက်ဦးမှာပဲ”

လေ့လာရေးအဖွဲ့မှ ကျောင်းသားတစ်ယောက်က မှတ်ချက်ပေးခြင်းဖြစ်သည်။

ကျန်တဲ့သူများကလည်း ခေါင်းငြိမ့်လက်ခံလိုက်ကြသည်။

ယေးယေးသည် သူ့သူငယ်ချင်းအားလုံးကို လိုက်နှုတ်ဆက်နေသည်။ ပြီးနောက် စတိတ်စင်ပေါ် လျှောက်သွားကာ မိုက်ကရိုဖုန်းကို ကိုင်လိုက်သည်။

“ဒီပွဲကိုလာတဲ့အတွက် အားလုံးကိုကျေးဇူးတင်ပါတယ်”

ယေးယေးက စကားစတင်ပြောသည်။

အပြောအဆို အမူအရာတို့သည် လွန်စွာလိုက်ဖက်လှသောကြောင့် အားလုံးသည် ငေးပြီးရင်းငေးနေသည်။

ယေးယေးက စကားဆက်ပြောသည်။

“ဒီပွဲမှာ ကျွန်မအပါအဝင် ပဏာမရွေးချယ်ခံရတဲ့သူ သုံးယောက်ကိုလည်း ဖိတ်ခေါ်ထားပါတယ်”

အားလုံးက ကျော်အောင်နှင့် ဝတ်ရည်မွန်ကို တစ်ချက်လှမ်းကြည့်လိုက်ကြသည်။

ထိုအခါမှ ကြီးဖေမရောက်သေးကြောင်း အားလုံးသိလိုက်ကြရသည်။ ယေးယေးက ကျေးဇူးတင်စကားကို ဆက်ပြောနေသည်။

ကျော်အောင်က ယေးယေးကို ငေးကြည့်နေ၏။

ခဏအကြာတွင် ယေးယေးသည် ကျော်အောင်နှင့်ဝတ်ရည်မွန်

ကို စင်ပေါ်တက်ခဲ့ပါရန် ဖိတ်ကြားသည်။ ကျော်အောင်နှင့်ဝတ်ရည်မွန်က စင်ပေါ်သို့တက်သွားသောအခါ အားလုံးက လက်ခုပ်တိုင်းတီးကြသည်။

"သူတို့တွေအားလုံးကလည်း သူ့နည်းသူ့ဟန်နဲ့ တော်ကြပါတယ်"

လက်ခုပ်သံတွေ ဆူညံသွားပြန်သည်။ ထိုစဉ် လူတစ်ယောက်၏ အော်ဟစ်သံတစ်သံကို ကြားလိုက်ရသည်။

"သတင်းတစ်ခုပါတယ်၊ သတင်းတစ်ခု"

ထိုသူ၏အသံက လက်ခုပ်သံများကို လွှမ်းမိုးပြီး အသံအားလုံးကို ငြိမ်ကျသွားစေသည်။

ပါတီပွဲရှိ လူအားလုံး၏မျက်ဝန်းများသည် ထိုလူဆီသို့ ရောက်သွားကြသည်။

အော်ပြောသောသူမှာ အခြားမေဂျာမှ ကျောင်းသားတစ်ယောက်ဖြစ်သည်။

ထိုကျောင်းသားက စာအိတ်ခပ်ကြီးကြီးတစ်ခုကို ကိုင်ထားပြီး လေ့လာရေးအဖွဲ့ဝင်တစ်ဦးထံသို့ လျှောက်သွားလိုက်သည်။

စင်ပေါ်ရှိ ယေးယေး၊ ကျော်အောင်နှင့် ဝတ်ရည်မွန်တို့ကလည်း ထိုကျောင်းသားကို စိတ်ဝင်တစားနှင့် ကြည့်နေကြသည်။

ကျောင်းသားက လေ့လာရေးအဖွဲ့ဝင်တစ်ဦးကို စာအိတ်အား ကမ်းပေးလိုက်သည်။

**အိပ်မက်အသစ်**

ဖွင့်ဖတ်ကြည့်၏။

ထို့နောက် ခေါင်းတဆတ်ဆတ်ငြိမ့်ပြီး အခြားအဖွဲ့ဝင်တစ်ဦးကို လက်ကမ်းပေးလိုက်သည်။

အားလုံး သိချင်နေကြသည်။

ဘာအကြောင်းအရာတွေ ထိုစာအိတ်ထဲမှာ ပါဝင်ပါသလဲ။

ထိုအချိန်ထိ တီးတိုးသံမှလွဲ၍ အားလုံး၏အသံများသည် တိတ်ဆိတ်နေသည်။

ခဏကြာသောအခါတွင် လေ့လာရေးအဖွဲ့ဝင်တစ်ဦးသည် စင်ပေါ်သို့တက်သွား၏။

ယေးယေးက အလိုက်သိစွာဖြင့် မိုက်ကလေးကမ်းပေးသည်။ ထိုသူက အားလုံးကို တစ်ချက်ဝေ့ကြည့်သည်။

"ဒီစာက…အခြားမေဂျာက ပထမရွေးချယ်ခံရတဲ့ ကျောင်းသား၊ ကျောင်းသူတွေရေးထားတဲ့ ဓာတုဗေဒမေဂျာအတွက်စာပါ"

"ဟာ"

"ဘာစာကြီးလဲ"

ထင်သည့်အတိုင်းပင်၊ ဝေဖန်သံများ ထွက်ပေါ်သွားကြသည်။

"ပြောချင်တာကတော့ စိန်ခေါ်တဲ့စာပါ"

ထိုသူ၏စိန်ခေါ်တဲ့စာပါဟုဆိုသောကြောင့် အားလုံးအံ့သြသွားသည်။ ဗိုပြီးလည်း သိချင်သွားသည်။

"ကျွန်တော် သေသေချာချာ ပြောပါမယ်"

"ပြောပြပါ"

"နားယောင်ချင်လို့"

ထိုလူက လက်ကိုတစ်ချက်ဝှေ့လိုက်သည်။

အားလုံးငြိမ်သွားသည်။ ထို့နောက် စာကိုဖြေးဖြေးချင်း ဖတ်ပြသည်။

*သို့*

*ကြီးမေ၊ ကျော်အောင်၊ ယေးယေး၊ ဝတ်ရည်မွန်*

*သင်တို့သည် ဓာတုဗေဒမှ ပထမရွေးချယ်ခံရသော လူလေးဦးဖြစ်ပါသည်။*

*ကျွန်တော်၊ ကျွန်မတို့သည်လည်း မေဂျာအသီးသီးမှ ပထမရွေးချယ်ခံရသောသူများဖြစ်ပါသည်။*

*ယခုစာပါ အကြောင်းအရာများသည် ကျွန်တော်တို့၏ စိတ်သဘောထားများအပြင် မိမိတို့မေဂျာအတွင်းရှိ ကျောင်းသား၊ ကျောင်းသူများ၏ သဘောတူညီချက်အရ ရေးသားထားခြင်းဖြစ်ပါသည်။*

*သင်တို့လေးယောက်ထဲမှ နှစ်ယောက်သည် ဤလာကန်သောအချိန်တွင် ကျွန်တော်/ကျွန်မတို့နှင့် နောက်ဆုံးအဆင့် အရွေးခံပြိုင်ရသည်ဖြစ်ပါသည်။*

*(ဤအချိန်တွင် အခြားမေဂျာများတွင် ပြိုင်ပွဲဝင်ယောကျ်ားလေးနှင့် မိန်းကလေးတို့အား ရွေးချယ်ပြီးဖြစ်ပါသည်။)*

ဒိဗ်မက်အသင်း

*သို့သော် ကျွန်တော်/ကျွန်မတို့ပြောသော အကြောင်းအရာအား လက်ခံ၍ အောင်မြင်စွာပြုလုပ်နိုင်မည်ဆိုပါက ကျွန်တော်/ကျွန်မတို့သည် နောက်ဆုံးအဆင့်ပြိုင်ပွဲအား ဝင်မပြိုင်ဘဲ အားလုံးနှုတ်ထွက်ပေးပါမည်။*

*သို့ဆိုလျှင် ကျောင်းကိုယ်စားလှယ်များ တာတုဆေဒ၏ ရွေးချယ်ခံလေးယောက်ထဲမှ နှစ်ယောက်သာ ဖြစ်တော့မည်ဖြစ်ပါသည်။*

*အကယ်၍ ရှုံးနိမ့်ပါက သင်တို့လေးယောက်စလုံး နှုတ်ထွက်ပေးရမည်။*

"ဟာ..."

"အို..."

မျက်ဝန်းများသည် စိတ်ဝင်စားမှုဖြင့် အရည်လဲ့သွားကြသည်။ မခံချင်စိတ်လည်း ဖြစ်သွားကြပုံရသည်။ ကျော်အောင်က ယေးယေးနှင့်ဝတ်ရည်မွန်ကို ကြည့်နေသည်။ သူတို့နှစ်ယောက်ကတော့ စာကိုသာ နားစွင့်နေ၏။ စာဆက်ဖတ်သံကို ဆက်ကြားရသည်။

*ကျွန်တော်/ကျွန်မတို့သည် သင်တို့လေးယောက်နှင့် ပြိုင်ပွဲလေးပြုလုပ်မည်ဖြစ်သည်။*

*ပြိုင်ပွဲမှာ အောက်ပါအတိုင်းဖြစ်သည်။*

*(၁) မြေပုံလေးတစ်ခုပေးမည်။*

*(၂) ထိုမြေပုံထဲတွင် ဤကျောင်းဝင်းအတွင်း၌ရှိ နေရာများ၊ လူများ၏ ကိုယ်စားပြုသင်္ကေတများပါမည်။*

(၃) ထိုမြေပုံထဲ၌ လူတစ်ဦးအား ကျောင်းဝင်းအတွင်း၌ လိုက်ရှာပေးရမည်။ ထိုသူသည် ကျွန်တော်/ကျွန်မတို့၏ ထောက်ခံမှုမဲများကို ကိုင်ထားသူတစ်ဦးဟု ဆိုကြပါစို့။

(၄) အကယ်၍ ထိုသူအား ရှာတွေ့ပါက မဲကျာအားလုံး၏ ထောက်ခံမှုအား သင်တို့ကို လွှဲပေးမည်ဖြစ်ပါသည်။

(၅) ထိုသို့ ရှာဖွေမှုသည် တစ်ရက်အတွင်းသာဖြစ်သည်။

(၆) ကျွန်တော်/ကျွန်မတို့က လိမ်လည်ခြင်း၊ ညစ်ပတ်ခြင်းများ မပြုလုပ်ဟု အားလုံးရှေ့တွင် ကတိပြုသည်။

ယခု ဤပြိုင်ပွဲအား ကျွန်တော်/ကျွန်မတို့က 'မိုနိုပိုလီ' ပြိုင်ပွဲဟု အမည်ပေးထားပါသည်။

စာကို အဆုံးသတ်လိုက်သည်။

လေ့လာရေးအဖွဲ့ဝင် ကျောင်းသားသည် ယေးယေး၊ ကျော်အောင်နှင့် ဝတ်ရည်မွန်ကို ကြည့်လိုက်သည်။

သူတို့ကလည်း တစ်ယောက်မျက်နှာ တစ်ယောက် ကြည့်နေကြသည်။

အောက်ဖက်ကလည်း တီးတိုးသံများ ထွက်ပေါ်လာသည်။

"ဒါ စိန်ခေါ်မှုတစ်ရပ်ပဲ"

"မှုတပ်ပါ့မလား"

"မဆိုးပါဘူး၊ နိုင်ရင် ဓာတုဗေဒကလူပဲ ကျောင်းကိုယ်စားလှယ်အရွေးခံရမှာလေ"

ဆီပီမှက်အသစ်

"ရှုံးရင် ဘယ်သူပဲဖြစ်ဖြစ် မပါရတော့ဘူးဆိုတာတော့ ထည့်မပြောဘူး"

"ဒါကတော့ကွာ၊ သူတို့ ဉာဏ်ပေါ်မှာလည်း မူတည်ပါတယ်"

"ပြိုင်ပွဲကြီးကတော့ ဘယ်လိုကြီးလဲ မသိရဘူးနော်"

"ဟုတ်တော့ဟုတ်တယ်၊ ဒါပေမယ့်"

"ဟာ…ကိုယ့်ဘာသာကိုယ်ပဲ ကောင်းပါတယ်၊ ဝင်ပြိုင်လို့ရှုံးရင် ဒုက္ခရောက်နေဦးမယ်"

"ကြီးဖေတို့ ကျော်အောင်တို့ကလည်း မခေပါဘူးဟ"

"ဟုတ်တော့ဟုတ်တယ်၊ ရှုံးသွားမှာစိုးတယ်"

"အချိန်ကလည်း တစ်ရက်တည်း၊ ဖြစ်ပါ့မလား"

"တစ်ပတ်လောက်ပေးရင် ကောင်းမယ်နော်"

ဤသို့ဖြင့် အချိန်တော်တော် ကြာသွားသည်။ လေ့လာရေးအဖွဲ့ဝင်ကျောင်းသားက

"ဒီပြိုင်ပွဲကို လက်ခံခြင်း၊ လက်မခံခြင်းသည် ကာယကံရှင်လေးယောက်အပေါ်တွင်သာ မူတည်နေပါတယ်"

ဟု ပြောလိုက်၏။

အားလုံးကလည်း ဟုတ်တယ်၊ ဟုတ်တယ်ဟု ပြောကြသည်။

ကျော်အောင် ချွေးပြန်နေသည်။

**အိပ်မက်အသစ်**

ယေးယေးကတော့ မထင်မှတ်ထားသည့် ကိစ္စဖြစ်သော ကြောင့် တအံ့တသြသာဖြစ်နေသည်။

ဝတ်ရည်မွန်ကတော့ ဘယ်လိုလုပ်ရမှန်း မသိဘူးဆိုသည့် မျက်နှာပုံစံဖြစ်နေသည်။

ဤတွင် မည်သူက စလိုက်သည်မသိ။

"ဖြိုင်ပါ၊ ဖြိုင်ပါ"

"ဖြိုင်ပါ၊ ဖြိုင်ပါ"

"ဖြိုင်ပါ၊ ဖြိုင်ပါ"

ဟူသော အားလုံး၏အသံများ ထွက်ပေါ်လာလေသည်။

လေ့လာရေးအဖွဲ့ ကျောင်းသားက 'ဘယ်လိုလဲ' ဟု လှမ်း မေးသည်။ ကျော်အောင်က အောက်ကအော်သံများကို နားထောင်ရင်း ခေါင်းညိမ့်ပြသည်။

ယေးယေးကလည်း လက်ခံသည့် အမူအရာပြသည်။

ဝတ်ရည်မွန်ကလည်း သူတို့နှစ်ယောက်ကိုကြည့်ပြီး ခေါင်း တစ်ချက်ညိမ့်ပြသည်။

မေးမြန်းသော ကျောင်းသားက ပရိသတ်ဘက် တစ်ဖက်ပြန် လှည့်လိုက်သည်။

"ဓာတုဗေဒက် သုံးယောက်ကတော့ သဘောတူညီချက် ပေးပြီးသွားပါပြီ"

"ကြီးမေ့ ကျန်သေးတယ်လေ"

**အိပ်မက်အသစ်**

အောက်ဖက်က တစ်ယောက်က လှမ်းအော်သည်။

အားလုံးကလည်း 'ဟုတ်တယ်'ဟု ထောက်ခံကြပြန်သည်။ ထိုစဉ် လူအုပ်ကြားထဲမှ အသံတစ်သံ ထွက်ပေါ်လာသည်။

"ကျွန်တော်လည်း သဘောတူပါတယ်"

"ဟေး...ဒါမှ ကြီးဖေကွ"ဆိုသော အော်ဟစ်သံများ ဆူညံသွားလေသည်။



ကြီးပေ၊ ကျော်အောင်၊ ယေးယေးနှင့် ဝတ်ရည်မွန်တို့က ပြိုင်ပွဲ ကို လက်ခံသည်ဆိုသော သတင်းသည် နောက်တစ်နေ့နံနက် ကျောင်း တက်ချိန်တွင် တစ်ကျောင်းလုံးသို့ ပျံ့နှံ့သွားလေသည်။

စိတ်ဝင်စားမှုအပြည့်ဖြစ်သွားကြသည်။

အခြားမေဂျာများမှ ပေးသောတနင့် မြေပုံအား မေဂျာအသီးသီးရှိ ကြေညာသင်ပုန်းများတွင် ကပ်ထားကြလေသည်။

ကျောင်းသား၊ ကျောင်းသူများကလည်း အလုအယက် တိုးဝေ့ကြည့်ရှုကြသည်။

ထိုပြိုင်ပွဲစတင်ရသည့်ရက်မှာ ၂၈ ရက်နေ့ဖြစ်သည်။

ယနေ့သည် ၂၆ ရက်ဖြစ်သည်။

ကြားထဲတွင် စဉ်းစားချိန် အနည်းငယ်သာ ရလေသည်။

ကျောင်းတစ်ကျောင်းလုံးသည် မည်သည့်အကြောင်းအရာမှ စိတ်ဝင်စားမှုမရှိတော့ဘဲ ထိုပြိုင်ပွဲကိုသာ စိတ်ဝင်စားနေကြတော့သည်။

ပြောနေကြတော့သည်။

ထိုသတင်းကြောင့် သူတို့လေးယောက်ကို

ဓာတုဗေဒပါမောက္ခ ဦးတင်လတ်က ခေါ်တွေ့လေသည်။

(၂၈)

၂၆ ရက်...။

စာတပဗေဒပါမောက္ခရုံးခန်းတွင်ဖြစ်သည်။

ဆရာကြီး ဦးတင်လတ်သည် သူ့ရှေ့တွင် ထိုင်နေသော ကျောင်းသားလေးယောက်ကို ဘာမှမပြောဘဲ စိုက်ကြည့်နေသည်မှာ အတော်ကြာသွားပြီဖြစ်သည်။

ထိုလေးယောက်ကလည်း ခေါင်းကလေးငုံ့ထားသည်။

"ဒါဆို မင်းတို့လေးယောက်က အဲဒီကိစ္စကို သဘောတူလိုက်ပြီပေါ့"

"ဟုတ်ပါတယ် ဆရာကြီး"

ကျော်အောင်က ဝင်ဖြေသည်။

ကျန်တဲ့လူများကလည်း ခေါင်းညိမ့်ပြကြသည်။

ဆရာကြီးက မျက်မှန်ကိုချွတ်ပြီး စားပွဲပေါ်တင်လိုက်သည်။ ထို့နောက် ခုံကိုမှီမလို ပြုလုပ်လိုက်သောအခါတွင် ကြီးမေကိုသတိထားမိသွားပြီး မျက်မှန်ကိုပြန်တပ်ကာ ပုံမှန်အတိုင်းနေလိုက်သည်။

ကြီးဖေလည်း ဆရာကြီးပုံစံကိုကြည့်ပြီး ရယ်ချင်သွားသည်။

"မင်းတို့ ရှုံးရင် ငါတို့မေဂျာ ရှုံးတဲ့သဘောပေါ့"

အားလုံးက တညီတညွတ်တည်း ခေါင်းညိမ့်ကြသည်။ ဆရာကြီးက သက်ပြင်းချပြီး…

"ဘာပဲပြောပြော လူငယ်တွေ မခံချင်စိတ်နဲ့ လုပ်ခဲ့တာဆိုတော့ ဆရာကြီးဘာမှ မပြောလိုတော့ပါဘူး၊ အခုကိစ္စက အများကလည်း သဘောတူနေတယ်ဆိုတော့ ငါလည်းလက်ခံရတော့မှာပေါ့"

"ကျေးဇူးတင်ပါတယ် ဆရာကြီး၊ ကျွန်တော်တို့ ကြိုးစားပါမယ်"

"အေး ဟုတ်ပြီ၊ လိုအပ်တာရှိလည်း ပြောပါ၊ ဒါနဲ့ မင်းတို့ ရထားတဲ့ စာနဲ့ပုံကိုပြပါဦးကွ"

ယေးယေးက သူ့လွယ်အိတ်ထဲမှ ခပ်သွက်သွက်ထုတ်ကာ ဆရာကြီးကို လှမ်းပေးလိုက်သည်။

ဆရာကြီးက ပုံကိုသေချာကြည့်ပြီး မျက်မှောင်ကြုတ်သွားသည်။



(၂၉)

ပါမောက္ခချုပ် အစည်းအဝေးခန်းတွင်ဖြစ်သည်။

ပါမောက္ခချုပ်မှာ စားပွဲ၏ထိပ်ပိုင်းတွင် ထိုင်နေပြီး ကျန် ပါမောက္ခများက တစ်ဖက်တစ်ချက်တွင် အသီးသီးထိုင်နေကြသည်။

"အားလုံးသိပြီးဖြစ်မှာပါ၊ ဒီနေ့ ခေါ်ပြောရတဲ့ကိစ္စက ကျောင်းထဲမှာ သတင်းထွက်နေတဲ့ မိုနိုပိုလီဆိုတဲ့ ပြိုင်ပွဲကိစ္စပါ၊ ဒီ ပြိုင်ပွဲဟာ ကျောင်းသားအချင်းချင်း မခံချင်စိတ်နဲ့ ပြုလုပ်ကြတဲ့ပွဲဖြစ် ပေမယ့် ကျွန်တော်တို့ကျောင်းနဲ့ သက်ဆိုင်နေသလို ဖြစ်နေတယ်၊ အဲ့ဒါ သက်ဆိုင်ရာ ပါမောက္ခတွေရဲ့ သဘောထားကို သိချင်ပါတယ်"

ပါမောက္ခချုပ် စကားဆုံးသွားသောအခါတွင် ပါမောက္ခများ သည် တစ်ဦးကိုတစ်ဦးမကြည့်ဘဲ ခပ်တည်တည်ဖြစ်နေကြသည်။

သင်္ချာပါမောက္ခက မတ်တပ်ရပ်လိုက်သည်။

"ဘာပဲဖြစ်ဖြစ်လေ ကျွန်တော်ကတော့ သဘောတူပါတယ်၊ ကျွန်တော့်ကျောင်းသားတွေကိုလည်း ယုံကြည်ပါတယ်၊ ဒီကိစ္စဖြစ်တာ

ရတာဘာ ဓာတုဗေဒမေဂျာရဲ့ ရွေးချယ်ပုံနည်းစနစ်ကြောင့်ပါ။ ကျောင်းမှာ ဓာတုဗေဒက ပထမအရွေးခံရတဲ့ လူတွေဟာ နာမည်ကြီးလာပါတယ်။ ဒါကြောင့် သူတို့လည်း တဖန်ကြိုးစားခြင်းဖြစ်ပုံရပါတယ်။ ကျွန်တော်ကတော့ ထောက်ခံပါတယ်။ သူတို့ကိုလည်း ကူညီမှာပါ''

သင်္ချာပါမောက္ခစကားကြောင့် ဆရာကြီးဦးတင်လတ်မှာ စိတ်မသက်မသာဖြစ်သွားသည်။

သူ့ကျောင်းသားများရှုံးပါက 'ဘာမှမဟုတ်ဘဲ စတန့်ထွင်တယ်။ ပြီးတော့ ဘာမှမဟုတ်ဘူး'ဆိုပြီး ပြောခံရနိုင်သည်ကို တွေးမိသောကြောင့်ဖြစ်သည်။

သမိုင်းပါမောက္ခကလည်း မတ်တပ်ရပ်လိုက်ပြန်သည်။

''မှန်ပါတယ်၊ ကျွန်တော်ကလည်း ကျွန်တော့်ကျောင်းသားတွေဘက်က ရှိပါတယ်၊ သူတို့မှာလည်း ဒီလိုလုပ်ဖို့ အခွင့်အရေးတွေရှိတယ်လို့ထင်ပါတယ်''

ဤသို့ဖြင့် တစ်ယောက်ပြီးတစ်ယောက်ထကာ 'မိုနိုပိုလီပြိုင်ပွဲ'အား ထောက်ခံသည့်စကားများ ပြောကြသည်။

နောက်ဆုံးတွင် ဓာတုဗေဒပါမောက္ခဦးတင်လတ် အလှည့်သာကျန်တော့သည်။

ပါမောက္ခချုပ်နှင့်တကွ အားလုံးသောပါမောက္ခများက ဆရာကြီးဦးတင်လတ်ကို ကြည့်လိုက်ကြသည်။

ဆရာကြီးက မျက်မှန်ကိုချွတ်ပြီး စားပွဲပေါ်တင်လိုက်သည်။

ထို့နောက် ထိုင်ခုံမှဖြေးညှင်းစွာထကာ…

"အားလုံးက သဘောတူညီတယ်ဆိုတော့ ကျွန်တော်လည်း သဘောတူညီပါတယ်၊ သူတို့ပေးထားတဲ့ ကတိအတိုင်း ကျွန်တော်တို့ ရှုံးရင် လှူငယ်ပွဲတော်ပြိုင်ပွဲကနေ ဓာတုဗေဒမေဂျာက နုတ်ထွက်ပေးပါ့မယ်၊ နိုင်ရင်သာ သူတို့ ပေးထားတဲ့ကတိကို တည်စေချင်ပါတယ်"

"တည်ပါတယ်"

"ပြုလုပ်ပေးပါမယ်"

အားလုံးက ကတိတည်မည်ဟု ဝိုင်းပြောကြသည်။

"နောက်တစ်ခု ရှိပါသေးတယ်"

"ပြောပါ ဦးတင်လတ်"

"ဒီမိုနိုပိုလီပြိုင်ပွဲရဲ့အဖြေ၊ ဒီပြိုင်ပွဲရဲ့ စည်းမျဉ်းကို ဘယ်သူ ရေးဆွဲဖန်တီးတာပါလဲ"

အားလုံးက တညီတညွတ်တည်းပင်

"မသိဘူး၊ ကျောင်းသား၊ ကျောင်းသူတွေအားလုံးထဲက တစ်ယောက်ယောက် ဖန်တီးပုံရပါတယ်၊ အခုထိ ဘယ်သူမှ စုံစမ်း လို့မရပါဘူး"

"ဒါဆို သူတို့ပြောတဲ့ မြေပုံထဲကလူဟာ အပြင်မှာ တကယ် ရှိပါ့မလား"

သချာပါမောက္ခက မတ်တပ်ရပ်လိုက်သည်။

"ဆရာကြီး မစိုးရိမ်ပါနဲ့၊ သူတို့တွေ သူတို့နည်းစနစ်အတိုင်း

ရှိနိုင်ပါတယ်။ သူတို့တွေ မညစ်ပတ်နိုင်ပါဘူး၊ ဆရာကြီးသိတဲ့အတိုင်း ပါပဲ၊ ဒီကျောင်းကလူတွေက ပညာတတ်တွေပါ၊ သူတို့ဟာ ပြိုင်ချင်စိတ်၊ တော်ချင်စိတ်၊ သူများထက်သာချင်စိတ်တွေ ရှိပါတယ်၊ ဒီတော့ ဒီမိုနီပိုလီဆိုတဲ့ ပြိုင်ပွဲဟာ အစစ်အမှန်ပြိုင်ပွဲလို့ ကျွန်တော်ယုံကြည်ပါတယ်''

သချ်ာပါမောက္ခစကားကို အခြားပါမောက္ခများကလည်း ထောက်ခံကြသည်။ ဆရာကြီးဦးတင်လတ်က မျက်မှန်ပြန်တပ်လိုက်ပြီး...

''ဒီလိုဆိုရင်ကောင်းပါတယ်၊ ဒါပေမယ့် ကျွန်တော် တစ်ခုတောင်းဆိုချင်ပါတယ်''

''ရပါတယ်''

''ကျွန်တော်တို့ ရှုံးသွားပြီဆိုပါစို့''

''အင်း''

''အဲ့ဒီပြိုင်ပွဲရဲ့ စီစဉ်ထားမှုကို သေချာယုတ္တိရှိအောင် ရှင်းပြပေးရပါမယ်''

''ကောင်းပါပြီ၊ လက်ခံပါတယ်''

ထိုသို့ပြောပြီးနောက် အားလုံး၏ မျက်ဝန်းများသည် ပါမောက္ခချုပ်ဆီသို့ ရောက်သွားကြသည်။

''အားလုံးသဘောတူပြီဆိုတော့ ကျွန်တော်တို့ကျောင်းအနေနဲ့လည်း သူတို့လုပ်တဲ့ပြိုင်ပွဲကို လက်ခံကြောင်း ပြောရတော့မှာပေါ့၊

ပြီးတော့ ဆရာတွေကလည်း ပြိုင်ပွဲကို မသိမသာလေး ကြီးကြပ်ပေးစေလိုပါတယ်''

အားလုံး သဘောတူညီကြသည်။

ထိုသို့ဖြင့် ခါတုဗေဒ ပါမောက္ခတစ်ဖက်၊ အခြားပါမောက္ခများကတစ်ဖက်ဖြင့် 'မိုနိုပိုလီပြိုင်ပွဲ'ကို လက်ခံလိုက်ကြလေသည်။



နောက်တစ်နေ့တွင်ပါမောက္ခများ၏ အစည်းအဝေးအကြောင်းသည် တစ်ကျောင်းလုံးသို့ ပျံ့နှံ့သွားပြန်သည်။

ပါမောက္ခအသီးသီးကလည်း သူတို့မေဂျာများတွင် ထိုပြိုင်ပွဲအား သဘောတူညီသည့်စာများအား အများသိအောင် ကပ်ထားကြလေသည်။

တရားဝင်ပြိုင်ပွဲဖြစ်သွားသောကြောင့် ကျောင်းသားကျောင်းသူများသည် အရင်ကထက် ပို စိတ်ဝင်စားလာကြသည်။



(၃၀)

၂၇ ရက်…။

အခန်းလွတ်လေးတစ်ခုတွင် ကျောင်းသားနှစ်ယောက်နှင့် ကျောင်းသူလေးနှစ်ယောက် ထိုင်နေကြသည်။

သူတို့လေးယောက်မှလွဲ၍ အခန်းထဲတွင် မည်သူမှမရှိချေ…။

"ငါတို့တွေ လုပ်နိုင်ပါ့မလားမသိဘူး"

ကျော်အောင်၏ စကားသံဖြစ်သည်။

"လုပ်နိုင်ပါတယ်၊ စိတ်ဓာတ်မကျပါနဲ့"

ယေးယေးက ဝင်ပြောသည်။

"ငါတို့ အချိန်တိုးတောင်းရင် မကောင်းဘူးလား"

"အခုမှတောင်းလို့ ဘယ်ဖြစ်တော့မလဲ၊ အားလုံးက တစ်မျိုး ထင်သွားမှာပေါ့"

ကြီးဖေက တစ်ခုခုကို စဉ်းစားနေပုံရသည်။

ဆိပ်မက်အသစ်

ဝတ်ရည်မွန်ကတော့ သူတို့သုံးယောက်ကို ၂ ကြည့်နေသည်။

“ဘာပဲပြောပြော မနက်ဖြန်ကတော့ စိတ်လှုပ်ရှားစရာ ကောင်းမှာပဲ”

ကြီးဖေက မတ်တပ်ရပ်လိုက်ရင်းပြောသည်။ ထို့နောက် ဆက်ပြောသည်။

“မနက်ဖြန် မနက်ပိုင်းကနေ ညနေ သုံးနာရီအထိပဲဆိုတော့ အချိန်ကတော့ တော်တော်ရပါတယ်”

“မများလည်း မများပါဘူး ကြီးဖေ”

ကျော်အောင်က ကြီးဖေကိုပြောလိုက်သည်။

အခုအချိန်တွင် သူတို့လေးယောက်၏ စိတ်ထဲ၌ အရင်က အပြိုင်အဆိုင်များကို မေ့ထားပြီး စည်းစည်းလုံးလုံးရှိနေသည်။

ယခုလက်ရှိ စိတ်ထဲတွင် ‘မိုနိုပိုလီပြိုင်ပွဲ’သာ စိတ်ထဲရှိနေသည်။

“ငါမသိလို့ မေးဦးမယ်၊ ဘာဖြစ်လို့ သူတို့က ဒီပြိုင်ပွဲကို ‘မိုနိုပိုလီ’လို့ အမည်ပေးရတာလဲ”

ဝတ်ရည်မွန်၏မေးခွန်းကြောင့် အားလုံးမှာ ဒွိဟဖြစ်သွားသည်။

“ဒီပြိုင်ပွဲနဲ့ပတ်သက်လို့ ပေးထားတာဖြစ်မှာပေါ့”

ခဏာတိတ်ဆိတ်သွားပြန်သည်။

ပြီးတော့မှ ကျော်အောင်က...

အိပ်မက်အသစ်

"ဘာပဲပြောပြော ဒီပြိုင်ပွဲကို ငါတို့နိုင်ရမယ်၊ နိုင်ရအောင်လည်း အစီအစဉ်တွေလုပ်ရမယ်"

"နင်ဘယ်လိုတွေးထားမိလဲ ကျော်အောင်"

ယေးယေးက ဝင်မေးသည်။

"အခုတော့ ငါလည်း ဘာမှမစဉ်းစားတတ်တော့ဘူး ယေးယေး"

ကြီးဖေက မတ်တပ်ရပ်ရာမှ ခုံတွင်ပြန်ဝင်ထိုင်သည်။

"ငါတို့ တိုင်တိုင်ပင်ပင်လုပ်မှ ဖြစ်တော့မယ်ထင်တယ်"

"အင်း...အဲ့ဒါတော့ ဟုတ်တယ် ကြီးဖေ"

ကျော်အောင်က ထိုသို့ပြောပြီး ကျန်မိန်းကလေးနှစ်ယောက်ကိုလည်း ကြည့်လိုက်သည်။

မိန်းကလေးနှစ်ယောက်က သဘောတူညီကြောင်းပြောသည်။

"ဟုတ်ပြီ၊ ဒါဆို မနက်ဖြန်အတွက် စ ပြင်ဆင်ရအောင်"

ဟုဆိုပြီး ကြီးဖေသည် လွယ်အိတ်ထဲမှ 'မိုနီဝိုလီပြိုင်ပွဲမြေပုံ' ကို ထုတ်လိုက်လေသည်။



Success ဆိုသည့် နေရာအား မြေပုံထဲရှိလူများထဲမှ လူတစ်ဦး ရောက်ရှိသွားသည်။ သူဘယ်သူလဲဆိုတာ ဤမြေပုံထဲရှိ ဆိုင်များ၊ လူများအားလုံး သိကြသည်။

သူ ဘယ်သူဖြစ်မလဲ?

အိပ်မက်အသစ်

(၃၁)

"မြေပုံရဲ့ ဝင်ဝင်ခြင်းအပေါက်မှာ ဆိုင်တစ်ဆိုင်တွေ့ရတယ်ကွ"

ကြီးဖေစကားကြောင့် ကျန်တဲ့သုံးယောက်မှာ မြေပုံကိုဝိုင်းကြည့်လိုက်ကြသည်။

"အေး…ဟုတ်တယ် ဘာဆိုင်လဲမသိဘူး"

"သူတို့က ဒီမြေပုံထဲကဟာတွေဟာ ငါတို့ကျောင်းထဲကဟာတွေကို ကိုယ်စားပြုတယ်လို့ ပြောထားတယ်နော်"

"အင်းလေ"

ကြီးဖေသည် ကျောင်းနံရံကိုမှီလိုက်သည်။

ထို့နောက် တစ်စုံတစ်ခုတွေးမိသွားပြီး…

"ဒါဆို Success ကို ရောက်သွားတဲ့လူဟာ ဒီဆိုင်မှာထိုင်ပြီး တစ်ခုခုစားခဲ့ရမယ်"

အိမ်မက်အသစ်

"အေး…ဒါဖြစ်နိုင်တယ်"

ကျော်အောင်က ထောက်ခံပြန်သည်။

"ဒီတော့ ငါတို့က ထိုလူ့အကြောင်းကို အဲဒီဆိုင်ကနေ စတင်စုံစမ်းရမယ်ထင်တယ်"

"ဟုတ်ပါပြီ၊ မြေပုံထဲမှာ သူဝင်ခဲ့ပါပြီထားတော့၊ ငါတို့က အပြင်မှာ ဘယ်လိုလုပ်ရမှာလဲ"

ယေးယေးက ဝင်ပြောခြင်းဖြစ်သည်။

ဒါကလည်း စဉ်းစားစရာကောင်းသော ကိစ္စတစ်ခုဖြစ်သည်။

"မြေပုံထဲကဆိုင်ဆိုတာ အပြင်မှာ ကျောင်းထဲက ကင်တင်းတစ်ခုခုကို ဆိုလိုပုံရတယ်"

ဝတ်ရည်မွန်စကားကြောင့် အားလုံး ဝတ်ရည်မွန်ကို ကြည့်လိုက်ပြီး 'ဟုတ်နိုင်တယ်'ဟု ပြောကြသည်။

"ဒါဆို ငါတို့ကျောင်းထဲက ကင်တင်းတစ်ခုခုကနေ စတင်စုံစမ်းရမှာပေါ့"

"ဟုတ်တယ်"

"ကင်တင်းတွေအများကြီးပဲ၊ ဘယ်ကင်တင်းက စစုံစမ်းရမှာလဲ"

ထိုစဉ် ယေးယေးက…

"ဒါက လွယ်လွယ်လေးပဲ၊ မြေပုံထဲကဆိုင်ရဲ့နာမည်က သင်္ချိုင်းပါတ်တွေဖြစ်နေတယ်၊ ဒီတော့…သင်္ချိုင်းကင်တင်းပဲဖြစ်ရမယ်"

"ဖြစ်နိုင်တယ်"

အားလုံးက ယေးယေးအတွေးကို လက်ခံလိုက်ကြသည်။ ပျော်လည်းပျော်လာကြသည်။ စိတ်ဓာတ်တွေလည်း တက်ကြွလာကြသည်။ တစ်ယောက်နဲ့တစ်ယောက် ပူးပေါင်းမှုသည် အဆင်ပြေလာနိုင်သည်ဆိုတာကို လက်ခံစပြုလာကြသည်။

"ကဲ…သချ်ႋုကင်တင်းမှာ ရှာမယ်ပဲထား၊ ငါတို့က သချ်ႋုကင်တင်းထဲက ဘယ်သူ့ဆီမှာ သွားမေးရမှာလဲ"

ဝတ်ရည်မွန်စကားကြောင့် သူတို့ငိုင်သွားသည်။ ဆက်မတွေးနိုင်ကြတော့…။

အချိန်အတော်ကြာသွားသည်။

..............................

..............................

..............................

မည်သည့် အကြံဉာဏ်မှ ထွက်မလာချေ…။

နောက်ဆုံးတွင် မနက်ဖြန်သချ်ႋုကင်တင်းသို့သွားမည်။ ထိုရောက်မှပဲ ဆက်လက်စဉ်းစားမည်ဟု ဆုံးဖြတ်လိုက်ကြသည်။



၂၈ရက်နေ့
မိုနိုပိုလီပြိုင်ပွဲ
နံနက်(၈)နာရီမှညနေ(၃)နာရီ

နံနက် (၈း၃၀)နာရီ

ကျောင်းသို့ ကျောင်းသားကျောင်းသူများ တဖွဲဖွဲရောက်ရှိလာကြပြီဖြစ်သည်။ အားလုံးမှာ စိတ်လှုပ်ရှားမှုအပြည့်ဖြင့် တစ်နေရာသို့ သွားနေကြသည်။

ဖယ်ရီကားပေါ်မှ ကြီးဖေဆင်းလိုက်သည်။

သူ့ကိုကြည့်နေသော ကျောင်းသား၊ ကျောင်းသူအချို့ကို တွေ့နေရသည်။ ကြီးဖေစိတ်တို့ လှုပ်ရှားလာသည်။

နာရီကို တစ်ချက်ကြည့်လိုက်၏။

သူတစ်ယောက်တည်းသာ ဖယ်ရီကားနှင့်ဖြစ်ပြီး ကျန်တဲ့သုံးယောက်မှာ ကိုယ်ပိုင်ကားနှင့်ဖြစ်သောကြောင့် သူတို့ရောက်နေလောက်ပြီဟုတွေးမိလိုက်သည်။

သူတို့ စုရပ် ကင်တင်းထဲသို့ လှမ်းဝင်လိုက်သည်။

"ဟာ"

သူကြောင်ပြီး ရပ်ကြည့်နေမိသည်။

များပြားလှသော ကျောင်းသား၊ ကျောင်းသူများကို တွေ့လိုက်ရသောကြောင့်ဖြစ်သည်။ ဒီနွေပြိုင်ပွဲကို စိတ်ဝင်စားကြသော ကျောင်းသား၊ ကျောင်းသူများဖြစ်ကြသည်။

ကင်တင်းထဲသို့ ကြီးဖေဝင်လာသောအခါတွင် တချို့က မသိမသာကြည့်ကြသည်။

တချို့က ပေါ်ပေါ်တင်တင်ကြည့်ကြ၏။ သို့သော် သူတို့ဘာသာသူတို့ နေနေကြသည်။ ကြီးဖေလည်း ဟိုဟိုဒီဒီကြည့်လိုက်ရင်း သူ့ရဲ့ပါတနာများကို ရှာလိုက်သည်။

"ကြီးဖေ၊ ငါတို့ဒီမှာ"

ယေးယေးအသံကို ကြားလိုက်ရသည်။

၈ း ၄၅ . . .

သချာကင်တင်းသို့ ရောက်သောအခါတွင် သူတို့နောက်မှ စိတ်ပါဝင်စားသော ကျောင်းသား၊ ကျောင်းသူများသည် သူတို့ကို အနှောင့်အယှက်မဖြစ်စေလိုဘဲ လိုက်လာကြသည်။

ဒီပုံစံအတိုင်းဆိုလျှင် သူတို့သွားသည့် နေရာတိုင်းကို လိုက်ပါမည့်ပုံစံဖြစ်နေသည်။

ယေးယေးက "ပျော်စရာတော့ကောင်းတယ်"ဟု ပြောလိုက်သေးသည်။

သို့သော် ခပ်ကြာကြာမပျော်နိုင်သေးဘဲ သချာကင်တင်းသို့

ရောက်သောအခါ စားပွဲတစ်ခုတွင် ဝင်ထိုင်လိုက်ပြီး မြေပုံကိုဖြန့်လိုက်သည်။

"ကဲ...သင်္ချာကင်တင်းရောက်ပြီ၊ ဘာဆက်လုပ်ကြမလဲ"

ပြောပြောဆိုဆို ကြီးဖေသည် မြေပုံကိုဆွဲယူကာ ဆိုင်နာမည်တပ်ထားသော ဆိုင်းဘုတ်အား ဘောပင်အနီဖြင့် ဝိုင်းလိုက်သည်။

| |
|---|
| 3 (Alpha C Alpha) A 9 |

"ငါညက စဉ်းစားမိတာလေးတစ်ခုရှိလို့"

အားလုံးက ကြီးဖေကို ပြိုင်တူကြည့်ကြသည်။

ကြီးဖေက စိတ်ရှုပ်သည့်ဟန်ဖြင့် သက်ပြင်းတစ်ချက်ချကာ

"ဒီသင်္ချာဂဏန်းတွေကို မြင်ဖူးလား"

ဟုမေးလိုက်သည်။

ကျော်အောင်က ဂဏန်းသင်္ချာကို တစ်ချက်ကြည့်သည်။

ဝတ်ရည်မွန်က ခေါင်းခါပြ၏။

ယေးယေးကတော့ ဘာမှမပြောဘဲ နေသည်။

ကင်တင်းထဲရှိ ဝိုင်းတော်တော်များများကလည်း ကြီးဖေဘာပြောမလဲဟု နားစွင့်နေကြသည်။

"ဒါ ကျောင်းသားတော်တော်များများ သိတဲ့အရာဖြစ်မှ

တယ်''

''ဘာအမိပ္ပာယ်လဲ''

တစ်ဆိုင်လုံးသည် ကြီးဖေစကားကိုသာ စိတ်ဝင်စားနေသည်။

''Scien . Calculator ပါလား''

ဟု ကြီးဖေက မေးလိုက်သည်။

ယေးယေးက သူ့လွယ်အိတ်ထဲမှ Science Calculator ကို ထုတ်လိုက်ပြီး ကြီးဖေအား လှမ်းပေးလိုက်သည်။

ကြီးဖေက ထို Calculator အား သူတို့လေးယောက် အလယ်တွင် ချထားလိုက်ပြီး ဆိုင်နာမည်ဟု အသုံးပြုထားသော (ခုနက ဂဏာန်းများ)ကို ရိုက်ထည့်လိုက်သည်။

မလှုပ်မယှက်. . .။

ပတ်ဝန်းကျင်သည် ငြိမ်သက်နေသည်။ ကြီးဖေသည် ထို ဂဏာန်းများအား နှိပ်ပြီးသောအခါတွင် အားလုံးရှေ့သို့ ထိုးပေးလိုက်သည်။

''ဘာတွေလဲ''

ကျော်အောင်က Science Calculator ကို ကြည့်ကာ မျက်မှောင်ကြုတ်ပြီး မေးသည်။ ကြီးဖေက Calculator ကို ပြောင်းပြန် ပြလိုက်သည်။






တအုပ်ကို ပြောင်းပြန်ကြည့်ပါ။

''အဲ့ဒီဂဏန်းလေးတွေနဲ့ Science Calculator မှာ 'မောင်' ဆိုတဲ့စာလေးရေးလို့ရတယ်''

''ဟာ…အေး၊ အဲ့ဒီအကြောင်း ငါမှတ်မိပြီ''

ကျော်အောင်က Calculator ကို နောက်တစ်ခေါက်ထပ်နှိပ်ရင်း ပြောသည်။

''ဒါဆို ဒီသချ်ာကင်တင်းထဲမှာ မောင်ဆိုတဲ့စာလုံးနာမည်ပါတဲ့ လူရှိမှာပေါ့''

''ဒါပေါ့''

သူတို့အားလုံးမှာ ဆိုင်ပတ်လည်ကို ကြည့်လိုက်ကြသည်။

အခြားဝိုင်းများကလည်း သူတို့နည်းတူပင် ဟိုဟိုဒီဒီကြည့်နေကြသည်။

ယေးယေးက…

''ငါကတော့ အဲဒီ 'မောင်'ပါတဲ့လူဟာ ကျောင်းသား၊ ကျောင်းသူတွေထဲကလို့ မထင်ဘူး''

"ဘာဖြစ်လို့လဲ"

"မြေပုံထဲက ဆိုင်ကို ဟိုလူက ဝင်မယ်၊ ထွက်မယ်မဟုတ်လား"

"အင်·ဒလ"

"ဒီတော့ ဒီဆိုင်ထဲက ဝန်ထမ်း (သို့) စားပွဲထိုးပဲ သိနိုင်ရမယ်"

"ဟာ···ဟုတ်ပြီ"

ဆိုပြီး ကျော်အောင်က ထိုင်ခုံမှထကာ ကောင်တာရှိ အစ်မကြီးဆီသို့ သွားလိုက်သည်။

သူတို့လည်း အနောက်မှ ထလိုက်သွားသည်။



၉ း ၁၅

"တင်မောင်"

သူတို့ခေါ်လိုက်သော အသံကြောင့် ဖန်းကန်ဆေးနေသော ကောင်လေးမှာ လန့်သွားသည်။

"ဗျာ…ကျွန်တော့်ကိုခေါ်တာလား"

ကောင်လေးမှာ ငယ်ငယ်လေးပဲရှိသေးသည်။

ယေးယေးက ရှေ့သို့တိုးသွားပြီး…

"မောင်လေးနာမည်က တင်မောင်လား"

"ဟုတ်ပါတယ်"

ဖန်းကန်ဆေးနေရာမှ ပြန်ဖြေသည်။

ယေးယေးက မြေပုံလေးပြလိုက်ပြီး…

"မောင်လေးက ဒီမြေပုံနဲ့ပတ်သက်ပြီး ဘာသိလဲဟင်"

ကောင်လေးမျက်နှာမှာ ဝင်းသွားပြီး…

"သြော် . . .ဒီကိစ္စလား၊ ကျွန်တော်သိတယ်"

ဟု ပြန်ဖြေသည်။

ယေးယေးတို့မှာ ဝမ်းသာအားရဖြစ်သွားပြီး . . .

"ဒါဆို ဒီမြေပုံထဲကလူ ဒီဆိုင်ထဲကနေ ဘယ်ကိုထွက်သွားလဲ မောင်လေး"

"အိမ်သာကိုသွားမယ်ဆိုပြီး ထွက်သွားတာပဲ"

"ဘယ်လို"

အားလုံးမှာ နားရှုပ်ထွေးသွားသည်။

"ဒီမြေပုံထဲကလူက ဒီဆိုင်ထဲမှာ တစ်ခုခုစားပြီး အိမ်သာသွားဦးမယ်ဆိုပြီး ထွက်သွားတာပဲ"

"ဒါဆို ဘယ်အိမ်သာသွားတာလဲ မောင်လေး"

"ကင်တင်းနဲ့နီးနီးနားနား အိမ်သာပဲဖြစ်မှာပေါ့ အစ်မ"

တစ်ယောက်မျက်နှာတစ်ယောက် ကြည့်လိုက်ကြသည်။

"မောင်လေးကို သူတို့က ဘယ်လိုလာပြောထားတာလဲ"

"သူတို့က ဒီမြေပုံကြီးပြပြီး လာမေးရင် ဒီလိုဖြေလိုက်ပါလို့ ပြောသွားတယ်"

"အဲ့ဒီလူက ဘယ်နှယောက်လဲ"

"တစ်ယောက်တည်းပါ၊ ပြီးတော့ မုန့်ဖိုးလည်းပေးသွားသေးတယ်"

ဇော်မောင်ပြောသောလူမှာ သူတို့ မြေပုံထဲမှာလိုက်ရှာရမည့်

အိပ်မက်အသစ်

သူ ဖြစ်နိုင်သည်။

ထို့ကြောင့် တင်မောင့်ကို မုန့်ဖိုးပေးလိုက်ပြီး ကင်တင်းထဲမှ အလျှင်အမြန် ထွက်လိုက်ကြသည်။

အားလုံး၏ ခြေလှမ်းများသည် ခပ်သွက်သွက်လှမ်းနေကြရသည်။ အချိန်သည် ၉း၄၅ ဖြစ်နေပြီဖြစ်သည်။



၉ း ၅၀

သင်္ချိုင်းကင်းတင်းနှင့်အနီးဆုံး အိမ်သာရှေ့တွင် ရပ်လိုက်ကြသည်။ သူတို့ဘယ်ထဲဝင်ရမလဲမသိ…။

'ကျား'ထဲ ဝင်ရမှာလား၊ 'မ'ထဲ ဝင်ရမှာလား…။

နောက်ဆုံး ကြီးဖေနှင့်ကျော်အောင်က 'ကျား'ထဲသို့ဝင်လိုက်ပြီး မိန်းကလေးနှစ်ယောက်က 'မ'ထဲသို့ ဝင်ကြည့်ကြသည်။

ထိုအချိန်တွင် သူတို့လေးယောက်၏ လက်တလောဖြစ်ပျက်နေသော နောက်ဆုံးသတင်းသည် လူတိုင်းထံသို့ အမြဲမပြတ်ရောက်ရှိနေလေသည်။

သူတို့လေးယောက် ဝင်သွားသောအခါတွင် ကျောင်းသား၊ ကျောင်းသူအချို့မှာ အိမ်သာနားၗ ယောင်လည်လည်နှင့်ရှိနေကြသည်။

သူတို့လည်း နာရီတကြည့်ကြည့်နှင့် ဖြစ်နေကြသည်။

အားလုံးမှာ ဓာတုဗေဒမေဂျာမှဖြစ်ပြီး အချို့မှာ အခြားမေဂျာများမှ ဖြစ်သည်။

အိပ်မက်အသစ်

၁၀ : ၀၀

အရင်ဆုံး ယေးယေးနှင့် ဝတ်ရည်မွန်ပြန်ထွက်လာသည်။ ကြည့်နေသောသူများအားလုံးကို ခေါင်းခါပြလိုက်သည်။

မိန်းကလေးအိမ်သာထဲမှာ ဘာမှမတွေ့ရဟု ဆိုလိုခြင်းဖြစ်သည်။

ဒါဆို ယောကျ်ားလေးအိမ်သာထဲမှာပေါ့ . . .။

ထိုသို့ကြည့်နေရင်းနှင့်ပင် ကြီးမေနှင့်ကျော်အောင်တို့ ထွက်လာကြသည်။ လက်ထဲတွင်လည်း ကတ်ပြားတစ်ခုကိုင်ထားကြသည်။

"အိမ်သာထဲက တွေ့တာ"

အားလုံးမှာ ထိုကတ်ပြားကို ဝိုင်းကြည့်ကြသည်။

"ဘာအဓိပ္ပာယ်လဲဟ"

ဆယ်နာရီကျော်နေပြီဖြစ်သည်။

"ပုံစံအရ အဲဒီလူဟာ နောက်တစ်နေရာကို ညွှန်ပြခဲ့ပုံပဲ"

ကြီးဖေက ပုံကိုကြည့်ပြီးပြောသည်။

"ဖြစ်နိုင်တယ်"

ယေးယေးက ထောက်ခံသည်။ ကျော်အောင်ကလည်း ခေါင်းညိတ်ပြ၏။

ထို့နောက် မြေပုံကိုဖြန့်လိုက်ကြပြန်သည်။

သူတို့ရင်တွေ တဒိတ်ဒိတ်ခုန်နေသည်။

နာရီကိုလည်း မကြာခဏဆိုသလိုပင် ကြည့်နေကြသည်။

သတင်းတွေကြောင့်လားမသိ၊ သူတို့ကို လာကြည့်ကြသော ကျောင်းသား၊ ကျောင်းသူများမှာ ပိုများလာနေပြီဖြစ်သည်။

"ဒီပုံအရဆိုရင် အိမ်သာထဲမှာ ငါးမျှားနေတဲ့ပုံကို ကြက်ခြေခတ်မခတ်ထားဘူးဆိုတော့ ငါးမျှားနေတာပဲ ယူရမလိုဖြစ်နေပြီ"

အိပ်မက်အသစ်

"နေဦး"

ကျော်အောင့်စကားကို ဝတ်ရည်မွန်က ဖြတ်ပြီးဝင်ပြောသည်။

ထို့နောက် ဝတ်ရည်မွန်က မြေပုံကို ပြာပြာသလဲ ဝင်ကြည့်ပြီး...

"ဒီမြေပုံထဲမှာ ချောင်းတစ်ခုရှိတယ်ဟ"

"အေး...ဟုတ်ပါရဲ့"

သူတို့လည်း မြေပုံထဲက ချောင်းကို အခုမှသတိထားမိသွားကြသည်။ ဝတ်ရည်မွန်က ဆက်ပြောသည်။

"သူငါးမျှားရင် ဒီချောင်းမှာပဲ မျှားမှာပေါ့"

"ဖြစ်နိုင်တယ်၊ ဒါပေမယ့် ဒီလိုငါးမျှားဖို့ချောင်းက မြေပုံထဲမှာပဲရှိပြီး ငါတို့ကျောင်းထဲမှာမှ မရှိတာ"

ကြီးဖေစကားကြောင့် အားလုံး စိတ်ဓာတ်ကျသွားသည်။

ဟုတ်တော့လည်းဟုတ်သည်။

သူတို့ကျောင်းမှာ ချောင်းလည်းမရှိ၊ ကန်လည်းမရှိချေ...။

"သူ ငါးမျှားတော့ ငါးမျှားတံ ဘယ်ကရမှာလဲ"

ယေးယေးက တွေးတွေးဆဆ ဝင်ပြောသည်။

မြေပုံကိုလည်း တစ်ချက်ကြည့်လိုက်သေးသည်။

ကြီးဖေက ဟိုဘက်ဒီဘက် လမ်းလျှောက်နေသည်။

ကျော်အောင်က စဉ်းစားသလိုလို ဘာလိုလိုလုပ်နေသည်။

ကျန်တဲ့ကျောင်းသား၊ ကျောင်းသူများက နာရီကိုကြည့်ပြီး ရင်တဒိတ်

ဒိတ်နှင့် မီပါမလားဟု စိုးရိမ်ပူပန်နေကြသည်။

"ဒါ...စတိုးဆိုင်လား မသိဘူး"

ယေးယေးစကားကြောင့် အားလုံးလှည့်ကြည့်ကြပြီး ယေးယေးနားသို့ တိုးကပ်သွားကြသည်။

ယေးယေးပြသောမြေပုံထဲရှိ နေရာကိုကြည့်လိုက်ကြသည်။ ဟုတ်ပါသည်။ ချောင်းဘေးနားတွင် စတိုးဆိုင်တစ်ဆိုင်ဖြစ်သည်။ (သေချာကြည့်လိုပါက ကြိုးရှိသော စာမျက်နှာအား ပြန်ကြည့်နိုင်ပါသည်)

"သူ ငါးမျှားဖို့အတွက် ပစ္စည်းတွေကို ဒီစတိုးဆိုင်ထဲမှာ ဝယ်မယ့်ပုံပေါ်တယ်"

"ဟာ...ဒါဆို ငါတို့ကျောင်းထဲက တစ်ခုတည်းသော စတိုးဆိုင်ကို ပြောတာလားမသိဘူး"

ကျော်အောင်စကားမဆုံးခင် အားလုံးမှာ ကျောင်းထဲရှိစတိုးဆိုင်သို့ ပြေးကြပြန်သည်။

သူတို့လေးယောက်အပြင် ကျောင်းသား၊ ကျောင်းသူများလည်း ပါလာကြသည်။

လမ်းမှာတွေ့သော ကျောင်းသားကျောင်းသူများကလည်း စိတ်ဝင်စားစွာဖြင့် လိုက်ပါလာကြသေးသည်။

ညသို့ဖြင့် ၁၀း၄၅ အချိန် ဖြစ်နေပြီဖြစ်သည်။

ဒိဗ်မက်အသစ်

၁၁ း ၀၀

စတိုးဆိုင်ရှေ့သို့ ရောက်သွားသောအခါတွင် ၁၁း၀၀ ထိုးနေပြီ ဖြစ်သည်။

ကျော်အောင်က ဆိုင်ထဲသို့ အရင်ဝင်သည်။

သူ့နောက်မှ ယေးယေးနှင့်ကြီးဖေ…။

ပြီးမှ ဝတ်ရည်မွန်က ဝင်လာသည်။

သေချာတာက ဆိုင်ထဲသို့ ရောက်ရောက်ချင်းပင် သူတို့ လေးယောက်စလုံး ရုတ်တန့်သွားခြင်းပင်ဖြစ်သည်။

ဘာဆက်လုပ်ရမှန်းမသိ ဖြစ်သွားသောကြောင့်ဖြစ်သည်။

ရုတ်တရက်ဆိုသလိုပင် ကျော်အောင်မှာ ကောင်တာဆီသို့ ပြေးသွားသည်။ ကျန်တဲ့သုံးယောက်မှာလည်း ကျော်အောင်နောက်သို့ ဝရုန်းသုန်းကားနှင့် ပြေးလိုက်ရလေသည်။

"ဒီဆိုင်မှာ ငါးမျှားချိတ်ရောင်းလားဗျ"

အီဝ်မက်အာသစ်

ကျော်အောင့်အမေကြောင့် ကောင်တာမှ အစ်မကြီးသည် ကြောင်တောင်တောင်ဖြစ်သွားလေသည်။

ထို့နောက် 'မရှိဘူး'ဟု ခေါင်းခါပြသည်။

မရှိဘူး…။ မရှိဘူး…။

ဘာဆက်လုပ်ကြမလဲ…။

တစ်ယောက်တစ်မျိုး တွေးနေကြစဉ်တွင် ကြီးမေသည် တစ်ခုံ တစ်ခုကို သတိထားမိသွားသည်။

နာမည်တပ်ထားသောပစ္စည်း အမျိုးအစားများကို တွေ့လိုက်ရသောကြောင့် ဖြစ်သည်။

ဥပမာ ဗလာစာအုပ်၊ ခဲတံ၊ ဘောလ်ပင်စသည့် နေရာအား စာရေးကိရိယာများဟု တပ်ထားသည်ကို ဆိုလိုခြင်းဖြစ်သည်။

ကြီးမေက အားလုံးကို မျက်စပစ်ပြလိုက်သည်။ အားလုံးကလည်း ကြီးမေအတွေးကို နိုင်မိလိုက်ကြသည်။ ထို့ကြောင့် ပစ္စည်းများ စီတန်းပြီးတင်ထားသည်များကို တစ်ခုချင်းစီ လိုက်ကြည့်ကြသည်။

အချိုရည်များ…။

ဆေးများ…။

…………

…………

…………

တစ်နေရာအရောက်တွင်

အိပ်မက်အသစ်

ငါးများသည့်ကိုရိယာများ

ဟူသည့် စာတန်းကို တွေ့လိုက်ရသည်။

ထိုစာတန်းအောက်တွင် ရေသန့်ဗူးများကို တွေ့လိုက်ရပြန်သည်။ အတွေးတို့ ရှုပ်ထွေးသွားကြသည်။

ငါးများချိတ်နဲ့ ရေဗူးကဘာဆိုင်လို့လဲ…။

ဆယ့်တစ်နာရီခွဲတော့မည်ဖြစ်သည်။

၁၁ း ၃၀

"မြေပုံထဲမှာ စတိုးဆိုင်ရှေ့က သေးသေးလေးတွေက လူတွေ မှတ်လား"

"အင်း...ဟုတ်တယ်၊ ရထားပေါ်တက်ဖို့ လုပ်နေကြတာ ထင်တယ်"

ကြီးဖေနှင့်ယေးယေးက မြေပုံကိုကြည့်လိုက် ခပ်မြန်မြန်ပြော လိုက်နှင့်ဖြစ်နေကြသည်။

အချိန်သည် သူတို့အတွက် အရေးကြီးနေသည်။

ကြီးဖေက စင်ပေါ်ရှိမှန်ဘီလူးများ ထားရာနေရာသို့သွားကာ မှန်ဘီလူးတစ်ခုယူလိုက်သည်။

ထို့နောက် မြေပုံကိုသေချာကြည့်လိုက်ပြီး...

"ရထားရှေ့က လူတွေထဲမှာ ရေဗူးဆွဲထားတဲ့လူပုံစံတစ် ယောက်ကို တွေ့တယ်"

"ဟုတ်လား၊ သူဘာလုပ်နေတာလဲ"

"ရထားပေါ်တက်ဖို့ လုပ်နေတာထင်တယ်"

ဝတ်ရည်မွန်နှင့် ကျော်အောင်တို့က ရထား၊ ရထား ဟု ရေရွတ်နေသည်။

ယေးငေးက ခြေမြပုံကိုပြန်ခေါက်လိုက်သည်။

ကြီးဖေက ဆိုင်ထဲကပြေးထွက်သွားသည်။

"ဘယ်သွားမလို့လဲ"

ကျော်အောင်က အနောက်ကလိုက်ရင်း လှမ်းမေးလိုက်သည်။

"ကျောင်းရဲ့ ရထားဘူတာရုံကို"

၁၂ း ၁၅

ရထားဘူတာရုံရောက်ဖို့ နည်းနည်းလိုနေသေးသည်။

ရှေ့က ကြီးဖေသွားနေ၏။ ကြီးဖေနောက်မှ ကျော်အောင်နှင့်ယေးယေး…။

ဝတ်ရည်မွန်ကတော့ အနောက်မှ ခပ်မှန်မှန်လေး ပြေးလိုက်နေသည်။ အားလုံး မောဟိုက်နေကြသည်။

စိတ်ဝင်စားသော ကျောင်းသားကျောင်းသူများကလည်း အနောက်ကလိုက်နေဆဲဖြစ်သည်။

ဘူတာရုံထဲ ဝင်လိုက်ကြသည်။



၁၂ ႏ ၂၀

ဘူတာရုံထဲတွင် မည်သူတစ်ဦးတစ်ယောက်မှ မတွေ့ရချေ။ ခပ်လှမ်းလှမ်းတွင် ကောင်လေးတစ်ယောက်က ခွက်ကလေးရှေ့ချပြီး သီချင်းဆိုနေသည်မှလွဲ၍ မည်သူမှမရှိ။

ကြီးဖေက ရထားအချိန်စာရင်းကို သွားကြည့်သည်။

ခုနကလေးတင် ရထားတစ်စင်းစိုက်သွားကြောင်း သိကြရသည်။

ဘယ်လိုလုပ်ရမှန်း မတွေးတတ်အောင် ဖြစ်သွားကြပြန်သည်။ ဝတ်ရည်မွန်က ကြီးဖေနားကပ်သွားပြီး…

"ကြီးဖေ"

"ဟင်…ဘာလဲ"

ဝတ်ရည်မွန်က သီချင်းဆိုနေသော ကောင်လေးကို လက်ညှိုးထိုးပြသည်။

အိပ်မက်အသစ်

"ဘာ…ဘာဖြစ်လို့လဲ"

ဝတ်ရည်မွန်က ကောင်လေးဘေးနားက အရာကို ထပ်ထိုးပြသည်။ ရေသန့်ဗူးတစ်ဗူးဖြစ်သည်။

"ဟာ ဟုတ်တယ်"

ကြီးဖေသည် ထိုကောင်လေးနားသို့သွားကာ ရေဗူးကို ယူလိုက်သည်။

ကောင်လေးက သီချင်းဆိုရပ်သွားပြီး ကြီးဖေကိုမော့ကြည့်သည်။

"နေရသန့်ဗူးက ညီလေးဟာလား"

"ဟုတ်ပါတယ်၊ ခုနက အစ်ကိုကြီးတစ်ယောက်က ပေးသွားတာပါ"

သေချာသွားပြီဖြစ်သည်။ ထိုလူသည် ထိုကောင်လေးတွင် သဲလွန်စတစ်ခုခု ထားသွားပုံရသည်။

ကောင်လေးသည် အသက်နည်းနည်းငယ်သည်။

ဘေးနားက ချိုင်းထောက်ကိုကြည့်ခြင်းအားဖြင့် မသန်မစွမ်းတစ်ယောက်ဖြစ်ပုံရသည်။

"သူက…ညီလေးကို ဘာပြောသွားသေးလဲ"

"ဟင့်အင်း…ဘာမှမပြောသွားဘူး"

ကြီးဖေ စိတ်ညစ်သွားသည်။

သူတစ်ခုခုတော့ ထားခဲ့ရမည်။

အိပ်မက်အသစ်

ထိုစဉ် ကောင်လေးဘေးနားတွင် ချထားသော ကတ်ထူပြား ကြီးကို အားလုံးက စိတ်ဝင်စားသွားကြသည်။

"ဒါဘာကြီးလဲကွ"

ကောင်လေးက မထူးဆန်းသလိုပုံစံဖြင့်

"သြော်…ဒါက ကျွန်တော် ဘာကြောင့် ဒီလိုခွက်လေး ချပြီး တောင်းနေရတာလဲဆိုတာကို ရေးထားတာပါ"

"ပြပါဦးကွ၊ ဘာရေးထားတာလဲ"

ကောင်လေးက ကတ်ထူပြားကိုယူပြီး လှမ်းပေးသည်။

ကတ်ထူပြားက တော်တော်လေးတော့ကြီးသည်။

သားဓါးခွဲမျိုးများမှာ ရုပ်ဆိုးနေပါ၍

Plastic Surgery ပြုလုပ်ချင်ပါသောကြောင့်

ငွေလေးနည်းနည်းစွန့်ကြဲပေးပါခင်ဗျား


အန်ကယ်မိုက်


အန်ကယ်သာဂ


အန်တီဧသာဂီ


အန်တီပပဝတီ

ပုံ/

သားရေး

စိန်ဆယ်ကင်

စာကိုကြည့်ပြီး အားလုံး သဘောကျသဖြင့် ရယ်နေကြသည်။

"မှန်မှန်ပြောစမ်း၊ ခုနကအစ်ကိုကြီး ပေးသွားတာမဟုတ်လား"

ကောင်လေးကလည်း မဆိုင်းမတွပင် ခေါင်းညိတ်ပြသည်။

ကျော်အောင်က ကြီးဖေကိုင်ထားသော ကတ်ထူပြားကို ယူလိုက်ပြီး

"ဒီပုံလေးပုံထဲက အန်ကယ်သာဝဆိုတဲ့ပုံက ငါတို့ကျောင်းမှာ ကွမ်းယာရောင်းတဲ့ ဦးသာဝကြီးမဟုတ်လား"

သူပြောမှပဲ အားလုံးက ဦးသာဝကြီးမျက်နှာကို မြင်ယောင်မိကြသည်။ ၁း၃၀ ပြီဖြစ်သည်။



အိပ်မက်အသစ်

ထိုအချိန်အတွင်းမှာ မေဂျာအသီးသီးရှိ ကျောင်းသားကျောင်းသူ
ားကလည်း စိတ်လှုပ်ရှားလျက်ရှိနေကြသည်။

ကျောင်းသား၊ ကျောင်းသူများပင်မဟုတ်ဘဲ ပါမောက္ခများ
ည်လည်း စိုးရိမ်စိတ်ဖြင့် သတင်းများကို နားစွင့်နေကြသည်။

အနိုင်အရှုံးသည် မေဂျာတိုင်းအတွက် အရေးကြီးနေသော
ကြာင့် ဖြစ်သည်။

သူတို့လေးယောက်၏ သတင်းများကိုလည်း အားလုံးက
ချိန်နှင့်တစ်ပြေးညီ သိနေကြသည်။

သုံးနာရီထိုးလျှင် အချိန်ပြည့်ပြီဖြစ်သည်။

၁ း ၃၈

"ဦးသာဝ"

"ဟေ…ဘာတုန်း"

ဦးသာဝက ကွမ်းယာ ယာနေရင်းနဲ့မှ မော့ကြည့်သည်။

ရုတ်တရက် ကျောင်းသား၊ ကျောင်းသူအများကြီးတွေ့ရ တော့ ဦးသာဝ လန့်သွားပုံရသည်။

"ဘာ ဘာဖြစ်လို့လဲ"

ဟုမေးသည်။

"ဦးသာဝ ဒီမြေပုံနဲ့ပတ်သက်ပြီး ဘာသိထားသေးလဲ"

ဦးသာဝက ကြီးဖေလက်ထဲမှ မြေပုံကိုယူကြည့်သည်။

သေချာကြည့်သည်။ စူးစိုက်ကြည့်သည်။ ပြီးနောက်…

"မသိဘူး"

"ဟာ"

စိတ်ပျက်လက်ပျက် ဖြစ်သွားကြသည်။

"ဒါဆို ကွမ်းဘယ်သူတွေ လာဝယ်ကြတာလဲ"

"ဟာ...အများကြီးပေါ့ကွ"

ဟုတ်တော့လည်း ဟုတ်ပါသည်။

လူအများကြီးထဲမှာ ထိုလူလည်း လာဝယ်ကောင်းလာဝယ်လိမ့်မည်။

ဒါဆို ထိုလူက သဲလွန်စမထားသွားဘူးလား...။

ယေးယေးက မြေပုံကိုကွမ်းယာဗန်းပေါ်တင်ပြီး ဖြန့်ကြည့်သည်။ ဦးသာဝကလည်း ယေးယေးကြည့်သလို လိုက်ကြည့်၏။

အချိန်အတော်ကြာသွားသည်။ မြေပုံကိုလည်း အစအဆုံး အခေါက်ခေါက်အခါခါ ကြည့်နေရသည်။ မြေပုံ၏တစ်နေရာအရောက်တွင် ယေးယေးက မျက်မှောင်ကြုတ်လိုက်သည်။

ဘေးနားမှာရှိသော ကျော်အောင်ကို ကြည့်လိုက်ပြီး

"ဒီပုံလေးက ကွမ်းရွက်နဲ့ မတူဘူးလား"

ယေးယေးက မြေပုံထဲရှိ ပုံတစ်ပုံအားပြသည်။ ကွမ်းရွက်ပုံစံလေးနှင့်ဖြစ်သည်။

"ဟာ...အေး ကွမ်းရွက်ဆိုတော့ ကွမ်းယာဆိုင်ကို ဆိုလိုတာဖြစ်နိုင်တယ်"

ယေးယေးက မြေပုံပေါ်တွင် လက်ကို လိုက်ရွှေ့လိုက်သည်။

**အပိုင်းလက်အသစ်**

''ကွမ်းရှက်ပုံရဲ့ နောက်မှာလည်း ရေပိုက်ကြီး ရှိနေတယ်။ ပြီးတော့ လူတစ်ယောက်က ရေပိုက်အတိုင်း ဆင်းသွားတယ်''

တိုင်ပင်ထားခြင်း မရှိပါဘဲ အားလုံး၏မျက်ဝန်းများသည် ကွမ်းယာဆိုင်နောက်ဖက်သို့ ရောက်သွားသည်။

''ဟာ ဒီမှာလည်း ရေပိုက်ရှိတယ်ဟ''

ဦးသာဝကလည်း မြင်နေကျ ရေပိုက်ကို အခုမှတွေ့ဖူးသည့် အလားကြည့်နေမိသည်။

သူကြည့်နေစဉ်မှာပဲ ကျောင်းသားကျောင်းသူများက ရေပိုက် ပေါ်မှ လမ်းလျှောက်သွားနေကြပြီဖြစ်သည်။

အိပ်မက်အသစ်

၁ း ၅၀

ရေပိုက်လမ်းမဆုံးခင် တစ်နေရာအရောက်တွင် ရေပိုက်ပေါ်
၌ ဂစ်တာတီးနေသော ကျောင်းသားသုံးယောက်ကို တွေ့လိုက်ရသည်။

သူတို့အဖွဲ့ကို မြင်သွားသောအခါ ဂစ်တာတီးနေသော သူများ
မှာ ဂစ်တာတီးရပ်သွားကြသည်။

သူတို့အဖွဲ့ကိုလည်း ထူးဆန်းသလို ကြည့်နေသည်။ ရှေ့က
သွားနေသော ကြီးဖေကို ယေးယေးကလှမ်းပြောသည်။

"သူတို့ကိုမေးလိုက်"

ယေးယေးသည် မြေပုံထဲက ရေပိုက်အပေါ်ရှိ (Music)
ဆိုသော ဂီတ်ပေါက်ဝဆိုင်းဘုတ်ကို လက်ဖြင့်ထောက်ထားလေသည်။

ကြီးဖေသည် ဂစ်တာသမားများရှေ့တွင်ရပ်ကာ

"ဟိုး...ဒီပိုက်လုံးပေါ်က လူတစ်ယောက် ဖြတ်သွားတာတွေ့
လားဗျ"

"အင်း...တွေ့တယ်၊ နည်းနည်းတော့ကြာနေပြီ"

"ဟာ...သူ...ဘယ်ဘက်ကိုသွားလဲ"

"Physics ကင်တင်းထဲ ဝင်သွားတယ်"

အိပ်မက်အသစ်

၂ း ၁၅

Physics ကင်တင်းထဲသို့ ဝင်လာသော သူတို့ကို အားလုံးက ဝိုင်းကြည့်ကြသည်။

သူတို့ကိုလည်း သိနေခြင်းကြောင့် အချို့က တိုးတိုးလေး မေးကြသည်။

"ဘယ်လိုလဲ အဲ့ဒီလူကို တွေ့တော့မလား"

"တွေ့ခါနီးနေပြီ…တွေ့ခါနီးပြီ"

ဟု ဓာတုဗေဒမေဂျာက ကျောင်းသားတစ်ယောက်က ဝင်ဖြေသည်။

"တွေ့ခါနီးပြီဆိုတော့ ငါတို့လည်း လိုက်ကြည့်မယ်"

တစ်ယောက်တစ်ပေါက် ပြောဆိုကြရင်းနဲ့ Physics ကင်တင်းမှာ အသက်ပိုဝင်သွားသည်။

သူတို့လေးယောက်ကတော့ စားပွဲတစ်ခုတွင် ဝင်ထိုင်ကြသည်။ မောလည်းမောနေပြီဖြစ်သည်။

ထို့ပြင် Physics ကင်တင်းတွင်လည်း သဲလွန်စပျောက်နေပြီဖြစ်သည်။

အအေးတစ်ယောက်တစ်ခွက်စီ မှာသောက်လိုက်ကြသည်။ ထိုသို့ဖြင့် အချိန်တွေသည် တဖြည်းဖြည်းနှင့် ကုန်ဆုံးနေပြီဖြစ်သည်။





မြေပုံကို သေချာကြည့်ရင်းနှင့်ပင် Gate-1, Gate-2 ကို သတိထားမိသွားသည်။

"Gate-2 ကို ကြည့်ပါဦး"

ယေးယေးတို့မှာ အအေးသောက်ရင်းနှင့်ပင် ကျော်အောင် ပြရာနေရာသို့ ကြည့်လိုက်ကြသည်။

"ဘာဖြစ်လို့လဲ"

"Gate-2 ရဲ့အပေါ်မှာ သဲနာရီလေးလို ပုံစံမဟုတ်လား"

"အေး···ဟုတ်တယ်လေ၊ ဘာစဉ်းစားမိလို့လဲ"

"သဲနာရီဆိုတော့ အချိန်ကိုပြတာပဲ၊ အချိန်နဲ့ပတ်သက်တဲ့ ဘာသာရပ်ဆိုတော့ ငါတို့ကျောင်းမှာ Physics ဘာသာရပ်ရှိတယ်··· ဟာ သိပြီ"

"ဘာ··ဘာလဲ"

ကျော်အောင်သည် အအေးခွက်ကို ဘေးသို့ရွှေ့ထားလိုက်သည်။

"အဲ့ဒီလူ ဒီ Physics ကင်တင်းကိုရောက်ခဲ့တယ်"

"အေး ရောက်ခဲ့တယ်လေ"

"ဒီမြေပုံထဲက Gate-1, Gate-2 နှစ်ခုရှိတဲ့ထဲက Gate-2 ဟာ Success ဘက်သွားတဲ့လမ်းဖြစ်နေတယ်"

"ဆိုလိုတာက အဲ့ဒီလူ Success ကို ရောက်သွားပြီးပြီပေါ့"

"ငါတော့ အဲ့ဒီလိုထင်တာပဲ၊ Gate-2 ကို ကိုယ်စားပြုတဲ့ Physics ကင်တင်းကိုပဲ ငါတို့ရောက်တော့တယ်"

"ဒါဆို အဲ့ဒီလူက အခုဘယ်မှာလဲ"

ကျော်အောင်က ဝင်မေးသည်။

"သူ Success ကို ရောက်ပြီးသွားပြီဆိုတော့ လာရာလမ်းအတိုင်း ပြန်သွားနေလောက်ပြီထင်တယ်"

ကျော်အောင်စကားကို အားလုံးက ဟိုတွေးဒီတွေးနှင့် ဖြစ်သွားကြသည်။

ထို့နောက် ကျော်အောင်ပြောတာ ဖြစ်နိုင်တယ်ဟု တွေးမိကြပြန်သည်။

အားလုံး စိတ်ဓာတ်ကျသွားသည်။

ပင်ပင်ပန်းပန်းနှင့် စဉ်းစားလာခဲ့သမျှ အခု ဘာမှလုပ်လို့မရတော့ချေ။

အချိန်မှာလည်း ၂:၃၀ နေပြီဖြစ်သည်။

၃ နာရီထိုးဖို့ နာရီဝက်သာလိုတော့သည်။

**အိပ်မက်အသစ်**

ကင်တင်းထဲရှိ လူများအားလုံးသည်လည်း သူတို့နည်းတူ စိတ်ပျက်သွားကြသည်။

တချို့က ရှုံးသွားပြီဟု လက်ခံသွားကြလေတော့သည်။ ထိုစဉ်

"ငါတစ်ခု မေ့နေတယ်"

ကြီးဖေ၏ အားတက်သရောအသံကြောင့် ပြန်လည်စိတ်တက်ကြွလာကြသည်။

"ဘာလဲ မြန်မြန်ပြော အချိန်ပြည့်တော့မယ်"

"သူလည်း တစ်လမ်းလုံးပင်ပန်းရောပေါ့"

"အေး ပင်ပန်းတော့ဘာဖြစ်လဲ"

"အပြန်လမ်းမှာ နားမှာပေါ့"

"ဘယ်လို"

"ငါတို့မြေပုံကိုပြန်ကြည့်လေ"

အားလုံးက မြေပုံကိုပြန်ကြည့်ကြသည်။

"ဟိုတယ်တစ်ခုကိုတွေ့လား"

"အေး တွေ့တယ်"

"ငါတို့လာခဲ့တဲ့ လမ်းတစ်လျှောက်လုံး အဲဒီဟိုတယ်ကို အသုံးမပြုခဲ့ရဘူးနော်"

"အင်း...ဟုတ်တယ်"

"ဒီတော့ သူကပြန်ရင် ဒီဟိုတယ်မှာ မနားနိုင်ဘူးလား"

"နားတော့နားနိုင်ပါတယ်၊ ဒါပေမယ့် ဒီဟိုတယ်ကိုကိုယ်

စားပြုတဲ့ဟာ ငါတို့ကျောင်းမှာမှမရှိတာ”

ကြီးဖေက ဟိုတယ်ကို လက်နှင့်ထောက်လိုက်ရင်း

“ဟိုတယ်ရဲ့ဘေးမှာ စတိုးဆိုင်၊ ဒီဘက်ဘေးမှာ သချ်ာ
ကင်တင်းတွေ့လား”

“အင်း တွေ့တယ်”

“ဒီတော့ ငါတို့ကျောင်းမှာ သချ်ာကင်တင်းနဲ့ စတိုးဆိုင်
ကြားမှာ ဘာရှိလဲ”

“ဟာ...သိပြီ”

အချိန်မှာ ၂ း ၅၀ ဖြစ်နေပြီဖြစ်သည်။

၂ း ၅၀

အချိန်ပြည့်တော့မည်ဖြစ်သောကြောင့် ပါမောက္ခများနှင့် ဆရာများသည် သူတို့ရုံးခန်းများထဲမှ အသီးသီးထွက်လိုက်ကြသည်။

သူတို့၏ ခြေလှမ်းများအား မြေပုံထဲကလူကို ရှာနေသော အဖွဲ့ဆီသို့ ဦးတည်လိုက်ကြသည်။

## ကျောင်းသားများနားနေဆောင်

၂ း ၅၅

နားနေဆောင်တွင် ကျောင်းသားတော်တော်များများကို တွေ့လိုက်ရသည်။

အစုလိုက် စကားပြောနေသူများ၊ စာလုပ်နေသူများ၊ မုန့်စားနေသူများ၊ ကစားနေသူများနှင့် ပြည့်နေသည်။

သူတို့လေးယောက်ဝင်သွားသော အချိန်တွင် အရာရာအားလုံးသည် အေးအေးဆေးဆေးပဲဖြစ်နေသည်။

နားနေဆောင်ရှိ ကျောင်းသားများကလည်း ကိုယ့်အလုပ်ကို လုပ်နေကြသည်။

အားလုံးကို တစ်ချက်စေ့ကြည့်လိုက်သည်။ (၂း၅၇ ဖြစ်နေပြီဖြစ်သည်)။ အားလုံးထဲတွင် ကျောင်းသားလေးယောက်ကို သတိပြုမိလိုက်ကြသည်။

၂ း ၅၆

ထိုကျောင်းသားလေးယောက်မှာ မိုနိုပိုလီကစားနေကြခြင်းဖြစ်သည်။



**အိပ်မက်အသစ်**



၂ း ၅၆

သူတို့လေးယောက်က ကစားနေသော လူလေးယောက်ရှေ့တွင် ရပ်လိုက်ကြသည်။

မိုနိုပိုလီအရုပ်လေးရုပ်မှာ စိမ်း၊ နီ၊ ဝါ၊ ဖြူ အရောင်များနှင့်ဖြစ်သည်။ တစ်ဦးတစ်ယောက်ချင်းစီ မျက်နှာချင်းဆိုင်ဝင်ရပ်လိုက်ကြသည်။

နီ ↔ ကြီးဖေ

စိမ်း ↔ ကျော်အောင်

ဝါ ↔ ယေးယေး

ဖြူ ↔ ဝတ်ရည်မွန်

"ယေးယေး"

"ပြောလေ...ကြီးဖေ"

"နင့်အဝါက ပိုက်ဆံနဲ့မြေကွက်တွေ ဘယ်လောက်နိုင်ထားလဲ"

ယေးယေးက မျက်လုံးနှင့် တစ်ချက်ကြည့်လိုက်ပြီး နိုင်ထားသည့်ပမာဏကိုပြောသည်။

"ဝတ်ရည်မွန်"

ကျော်အောင်ကလည်း ဝတ်ရည်မွန်ကို လှမ်းပြောလိုက်သည်။

ဝတ်ရည်မွန်က အလိုက်သိစွာဖြင့် သူကြည့်ထားသော ပမာဏကို ပြောပြသည်။

ထို့နောက် ကျော်အောင်က ကြီးဖေကို ကြည့်လိုက်သည်။

ကြီးဖေက သူ့အနီရုပ်၏ ပမာဏကို ပြောပြသည်။

ကျော်အောင်က

"ငါ့...အစိမ်းရုပ်ကတော့ အားလုံးထက် ပမာဏနည်းနေတယ်"

ဟု ပြောလိုက်သည်။

ဒီလိုဆိုလျှင် ယခု မိုနိုပိုလီကစားပွဲတွင် အနီရောင်ရုပ်ပိုင်ရှင်သည် ငွေကြေးနှင့် အိမ်ခြံမြေများစွာပိုင်ဆိုင်ပြီး ကစားပွဲအောင်နိုင် (Success) နေသော လူတစ်ယောက်ဖြစ်သည်။

ထို့ကြောင့် ကြီးဖေက ကစားသမားလေးယောက်ထဲမှ တစ်ယောက်ကိုကြည့်ပြီး

"ကျွန်တော်တို့က အနီရောင်အရုပ်ကစားသမားကို လာတွေ့တာပါ"

ဟု ပြောလိုက်လေသည်။

ထိုအချိန်တွင် ပါမောက္ခချုပ်နှင့်အတူ အခြားပါမောက္ခများလည်း နားနေဆောင်သို့ ရောက်လာကြပြီဖြစ်သည်။



အိပ်မက်အသစ်

၃ : ၀၀

အနီရောင်အရုပ်ကျောင်းသားက သူတို့လေးယောက်အား စာလေးတစ်စောင်ပေးသည်။

ထိုစာထဲတွင် မေဂျာအားလုံးက ဓာတုဗေဒမေဂျာ၏ ပထမ လူလေးယောက်ထဲမှ ရွေးချယ်ခံရမည့် နှစ်ယောက်ကို လှိုက်လှိုက်လှဲလှဲ ထောက်ခံသည့် 'လူငယ်ပွဲတော်' အတွက် စာဖြစ်သည်။

အားလုံးလက်ခုပ်တီးလိုက်ကြသည်။

ထို့နောက် အနီရောင်အရုပ်ကျောင်းသားက သူတို့လေးယောက်ကို လက်ဆွဲနှုတ်ဆက်ပြီး

"ကျွန်တော်တို့ ရှုံးသွားပါတယ်"

ဟု ဝန်ခံလိုက်လေသည်။



(၃၂)

"ကြီးဖေ"

"ဟင်...ဘာလဲ"

"ငါ ပဏ္ဏမစာရင်းထဲကနေ နှုတ်ထွက်ပါတယ်"

"ဟာ...ဘာဖြစ်လို့လဲ၊ ငါတို့လေးယောက် အရွေးခံရဦးမယ်လေ"

ကြီးဖေမှာ အံ့သြသွားသည်။

"ဒီပြိုင်ပွဲမှာပဲ ရွေးချယ်လို့ရသွားပါပြီကွာ"

"ဘာကိုဆိုလိုတာလဲ ကျော်အောင်"

"ဒီပြိုင်ပွဲမှာ မင်းပဲဦးဆောင်ခဲ့တာလေ၊ အဲ့ဒီမှာ မင်းရဲ့ အရည်အချင်းကို ငါသိသွားပါပြီ၊ မင်းပဲ လှူငယ်ပွဲတော်ကို သွားသင့်ပါတယ်"

ကျော်အောင်က အမှန်တကယ် ပြောနေခြင်းဖြစ်သည်။

"ဟုတ်တယ် ကြီးဖေ၊ ငါလည်း နှုတ်ထွက်မလို့ပါ"

ဝတ်ရည်မွန်စကားကြောင့် ယေးယေးလည်း အံ့သြသွားပြန်သည်။

"ဘာဖြစ်လို့လဲ ဝတ်ရည်"

"ငါဒီပြိုင်ပွဲမှာ အမိကမစွမ်းဆောင်နိုင်ခဲ့ဘူးလေ၊ ဒီတော့ ငါနှုတ်ထွက်သင့်ပါတယ်၊ ပြီးတော့ နင်တို့နှစ်ယောက်ကိုယ်စား ငါ ဂုဏ်ယူပါတယ်"

ထိုသို့ပြောပြီးပြီးချင်း ဝတ်ရည်မွန်က လက်ခုပ် စ,တီးလိုက်သည် ကျန်တဲ့လူများကလည်း လက်ခုပ်တီးလိုက်ကြသည်။

"ကြီးဖေ...ကြီးဖေ"

"ယေးယေး...ယေးယေး"

"ကြီးဖေ...ကြီးဖေ"

"ယေးယေး...ယေးယေး"

ကြီးဖေက ယေးယေးကို တစ်ချက်လှမ်းကြည့်လိုက်သည်။

မျက်ဝန်းလှလှထဲက အရောင်တန်းတစ်ခုဖြင့် လှမ်းကြည့်နေသော ယေးယေးကို တွေ့လိုက်ရသည်။



လေးစားစွာဖြင့်.....

လူငနေ

Valentine's Day အမှတ်တရ

**လှနေ**

# သမီးရည်းစားနိုင်ဂျက်

- သမီးရည်းစားအချင်းချင်းပေးလို့ရတဲ့ Certificate
- အနည်းငယ်ထူးခြားသော ရည်းစားစာများ
- နိုင်ငံခြားက ရည်းစားစကားပြောနည်းတွေအပြင် သမီးရည်းစားများကြားထဲက ထူးဆန်းသော အကြောင်းအရာများကိုစိတ်ဝင်စားဖွယ် ဇာတ်လမ်းဖြင့် ဖန်တီးထားပါသည်။